# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့် ကြော်ငြာစာအမှတ်၊ ၂ ၀ /၂၀၀၄ (မနသ)

ရန်ကုန်မြို့၊ ၁၃၆၆ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၁၂ ရက်။

(၂၀၀၄ ခုနှစ်၊ နိုဝင်ဘာလ ၂ ၃ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော ရွှေဖြူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Shwe Byu Construction Co., Ltd.) သည် ကချင်ပြည်နယ်၊ မြစ်ကြီးနားမြို့၊ အောင်နန်းရပ်ကွက်၊ ဘူတာမြောက်ရပ်၊ မြေကွက်အမှတ် (၂၄)ရှိ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားမှပိုင်ဆိုင်သော မြေဧရိယာ(၁.၈၁၉)ဧက(၇၃၆၁.၂၄ စတုရန်းမီတာ) ကိုငှါးရမ်း၍ (B.O.T) စနစ်ဖြင့်ရုံးခန်းများ၊ ဈေးဆိုင်ခန်းများ တည်ဆောက်ဖွင့်လှစ် လုပ်ကိုင်ဆောင်ရွက်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၃၁-၈-၂၀၀၄)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၂/၂၀၀၄) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင် အစည်းအဝေးမှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၁၅-၉-၂၀၀၄) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂၈/၂၀၀၄)ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက် နှင့်အညီ (၂၉-၁၀-၂၀၀၄)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄၁/၂၀၀၄) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ရွှေဖြူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Shwe Byu Construction Co., Ltd.)အား မြန်မာ့ မီးရထားပိုင်မြေကို ငှါးရမ်း၍ (B.O.T) စနစ်ဖြင့် ရုံးခန်းများ၊ ဈေးဆိုင်ခန်းများ တည်ဆောက် ဖွင့်လှစ် လုပ်ကိုင်ဆောင်ရွက်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၆၅၅/၂၀၀၄ ကို ထုတ်ပေးလိုက်သည်။

၂။ ရွှေဖြူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Shwe Byu Construction Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှု လုပ်ငန်း စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။ ဥပဒေ ပုဒ်မ ၁၃မှ အောက်ဖော်ပြပါလုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားလိုပါက ကော်မရှင် သို့ လျှောက်ထားရမည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ နိုင်ငံတော်အတွက် အကျိုးဖြစ်ထွန်းသော စီးပွားရေးလုပ်ငန်းဖြစ်ပြီး ကုန်ထုတ်လုပ်မှုကြောင့်ဖြစ်စေ၊ ဝန်ဆောင်မှုလုပ်ငန်းကြောင့်ဖြစ်စေ သတ်မှတ်သည့်နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့်၊

(ခ) ဥပဒေပုဒ်မ ၁၃(စ)အရ စီးပွားရေးလုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို ပြန်လည် ရင်းနှီးမြှုပ်နှံရန် သီးသန့် ရန်ပုံငွေထား၍ (၁)နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်၊

(ဂ) ဥပဒေပုဒ်မ၁၃(ဆ)အရဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ စက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ၏ ပစ္စည်းတန်ဖိုးလျော့ငွေကို သတ်မှတ်ထားသည့် နှုန်းထားများအတိုင်း နှစ်တိုတိုနှင့် မူလတန်ဖိုးပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်၊

၃။ ရွှေဖြူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Shwe Byu Construction Co., Ltd.)သည် ဤခွင့်ပြုမိန့် အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များအဖြစ် ထားရှိပြီး အကောင်အထည် ဖော်ရမည်။

၄။ ရွှေဖြူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Shwe Byu Construction Co., Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၅။ ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် ရွှေဖြူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Shwe Byu Construction Co., Ltd.) တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော (B.O.T)စနစ်ဖြင့်မြေ ငှါးရမ်းခြင်းသဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများ အတိုင်း လိုက်နာဆောင်ရွက်ကြရမည်။

၆။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေအငှါးချထားသူ ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် အငှါးချထားခြင်းခံရသူ ရွှေဖြူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Shwe Byu Construction Co., Ltd.)တို့အကြား ချုပ်ဆိုမည့် (B.O.T) စနစ်ဖြင့်မြေ ငှါးရမ်းခြင်း သဘောတူစာချုပ် လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူ စာချုပ် မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၇။ မြေငှါးရမ်းကာလမှာ တည်ဆောက်ရေးကာလ (၁၂)လ ပြည့်မြောက်သည့် နေ့မှစ၍ ကနဦး (၁၅)နှစ် (တစ်ဆယ့်ငါးနှစ်) ဖြစ်ပါသည်။ နောက်ထပ် (၅)နှစ် (၁)ကြိမ် ဆက်လက် ငှါးရမ်းခွင့် ရရှိရေးအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

၈။ မြေငှါးရမ်းခနှုန်းကို (၅)နှစ်လျှင်တကြိမ် ပြန်လည်စိစစ်ရာ၌ ပြီးခဲ့သော (၅)နှစ်ကာလအတွက် သတ်မှတ် ငှါးရမ်းခနှုန်း၏ (၁၅)ရာခိုင်နှုန်းထက် မပိုစေဘဲ တိုးမြှင့်ခွင့်ရှိသည်။

၉။ ကုမ္ပဏီမှ (၃၀၀' × ၄၅')ရှိ ၃ထပ်ခွဲ အဆောက်အဦ (၂)လုံး၊ (၆၀' × ၄၅')ရှိ ၄ထပ်ခွဲ အဆောက်အဦ(၁)လုံး၊ (၇၅' × ၄၅')ရှိ ၃ထပ်ခွဲ အဆောက်အဦ (၁)လုံး၊ (၃၀၀' × ၄၅')ရှိ ၂ထပ် အဆောက်အဦ (၁)လုံး၊ (၇၅' × ၄၅')ရှိ ၂ထပ် အဆောက်အဦ (၁)လုံး၊ စုစုပေါင်း အဆောက်အဦ(၆)လုံး ဆောက်လုပ်မည်ဖြစ်ပါသည်။ မြေငှါးရမ်းခအဖြစ် ကုမ္ပဏီမှ ဆောက်လုပ်သည့် အဆောက်အဦ(၆)လုံး၏ အငှါးချထားနိုင်သည့် ကြမ်းပြင် ဧရိယာ (၁၁၃၁၇) စတုရန်း မီတာအတွက် (တစ်)နှစ်လျှင် တစ် စတုရန်းမီတာကို ကျပ် (၆၅၀)နှုန်းဖြင့် ကျပ် (၇.၃၆)သန်းနှင့် ယာဉ်ရပ်နားရန် မြေလွတ်ဧရိယာ (၂၇၁၈.၁၀) စတုရန်းမီတာအတွက် တစ်နှစ်လျှင် တစ်စတုရန်း မီတာကို ကျပ်(၄၅၀)နှုန်းဖြင့်

နှစ်စဉ်ကျပ် (၁.၂၂)သန်း တို့ကို ပေးသွင်းရမည်ဖြစ်၍ စုစုပေါင်း ငှါးရမ်းခ တစ်နှစ် အတွက် ကျပ် (၈.၅၈)သန်းကို (၃)လ (တစ်)ကြိမ် ပထမလ၏ လဆန်း (၁၀)ရက်အတွင်း ကြိုတင်ပေးသွင်းရမည်။

၁၀။ မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ကျပ်(၄၉.၁၁) သန်းကို (၃)ရစ်ခွဲ၍ မြန်မာ့မီးရထားသို့ အောက်ပါအတိုင်း ပေးသွင်းရမည်။

ပထမအရစ် – ကျပ် (၂၀.၁၁)သန်း (စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ ရက်ပေါင်း(၃၀)အတွင်း)

ဒုတိယအရစ် – ကျပ် (၁၄.၅၀)သန်း (ပထမအရစ် ပေးသွင်းပြီးသည့်နေ့မှ (၆) လအတွင်း)

တတိယအရစ် – ကျပ် (၁၄.၅၀)သန်း (ဒုတိယအရစ် ပေးသွင်းပြီးသည့်နေ့မှ (၆) လအတွင်း)

၁၁။ ရွှေဖြူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Shwe Byu Construction Co., Ltd.) သည် ဆောက်လုပ်သည့် အဆောက်အဦရှိ အခန်းများကို နိုင်ငံခြားသား(သို့မဟုတ်) နိုင်ငံခြားသားပိုင် ကုမ္ပဏီသို့ (တစ်)နှစ် ထက် ကျော်လွန်၍ ထပ်ဆင့် ငှါးရမ်းမည်ဆိုပါက ၁၉၈၇ ခုနှစ်၊ မရွှေ့မပြောင်းနိုင်သော ပစ္စည်းများ လွှဲပြောင်းခြင်းကို ကန့်သတ်သည့် ဥပဒေပုဒ်မ(၁၄)အရ သက်ဆိုင်ရာ ဝန်ကြီးဌာနက ထုတ်ပေးသော "ကင်းလွတ်ခွင့်ပြုသည့်အမိန့်" ရရှိပြီး ဖြစ်ရမည်။

၁၂။ ငှါးရမ်းကာလ ကုန်ဆုံးသည့်အခါ မြေနှင့်တကွ အဆောက်အဦ အပါအဝင် အဆောက်အဦနှင့် ဆက်စပ် ပတ်သက်နေသော ပစ္စည်းများကို မွမ်းမံထားရှိပြီး ကောင်းမွန်စွာ အသုံးပြုနိုင်သည့် အခြေအနေအတိုင်း မြန်မာ့ မီးရထားသို့ အဖိုးစားနား တစ်စုံတစ်ရာ တောင်းခံမှု မရှိဘဲ (၃)လ အတွင်း ပြန်လည်လွှဲပြောင်းပေးရမည်။ ယင်းသို့ လွှဲပြောင်းပေးရာတွင် အဆောက်အဦမှာ အလွတ်သက်သက်ဖြစ်ရမည်။

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီး ဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၅။ ရွှေဖြူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Shwe Byu Construction Co., Ltd.)သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံ များကို ဝန်ခံကတိပြုထားသည့်အတိုင်းစနစ်တကျထားရှိဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားရှိမှု အခြေအနေ ကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ အဆိုပြုလုပ်ငန်းနှင့် ဆက်စပ်နေသော မော်တော်ယာဉ်ရပ်နားရန် (Car Parking) ကိစ္စကို အဆိုပြုလွှာတွင် တင်ပြထားသည့်အတိုင်း စနစ်တကျ ဆောင်ရွက်ထားရှိရမည်။

၁၇။ ရွှေဖြူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Shwe Byu Construction Co., Ltd.)သည် အဆိုပြုလုပ်ငန်း စီးပွားဖြစ် စတင်ဆောင်ရွက်သည့်နေ့ကို ဤ ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၈။ ရွှေဖြူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Shwe Byu Construction Co., Ltd.)သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယား များဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာလများ) မပျက်မကွက် ပုံမှန် ပေးပို့အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်သည့်နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၉။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (၁)နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၂၀။ ရွှေဖြူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Shwe Byu Construction Co., Ltd.)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ခြင်း မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်း သည်အထိ အရေးယူ ခြင်းခံရမည်။

၂၁။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံ ခန့်ခွဲခြင်းမရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်းရပ်စဲရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်ရမည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င)အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၆(က)/မ-၉၃၉/၂၀၀၄ (၁၃၂၆)
ရက်စွဲ၊ ၂၀၀၄ ခုနှစ်၊ နိုဝင်ဘာလ ၂၃ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ ကာကွယ်ရေးဝန်ကြီးဌာန၊ တပ်မတော်ထောက်လှမ်းရေးဌာနချုပ်ရုံး(ပြည်တွင်းထောက်လှမ်းရေးဌာန)။

၅။ ကချင်ပြည်နယ်၊ အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး၊ မြစ်ကြီးနားမြို့။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ ရထားပို့ဆောင်ရေး ဝန်ကြီးဌာန။
၉။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၁၀။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၁။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၃။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၄။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၁၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့မီးရထား။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၃။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၄။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ရွှေဖြူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Shwe Byu Construction Co., Ltd.)။

၈၈

၄-၀၆၅
၂၃/၁၁

အထွေထွေ အရပ်ရပ် – ၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်)

အကြောင်းအရာ။ ။ ရွှေဖြူဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင်မြေကို ငှားရမ်း၍ ( BOT ) စနစ်ဖြင့် ရုံးခန်းများ၊ ဈေးဆိုင်ခန်းများ တည်ဆောက်၍ ဖွင့်လှစ်လုပ်ကိုင်ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ရွှေဖြူဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် ( Shwe Byu Construction Co., Ltd. ) သည် ကချင်ပြည်နယ်၊ မြစ်ကြီးနားမြို့၊ အောင်နန်း ရပ်ကွက်၊ ဘူတာမြောက်ရပ်၊ မြေကွက်အမှတ် ( ၂၄ ) ရှိ ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထား မှပိုင်ဆိုင်သော မြေဧရိယာ (၁.၈၁၉) ဧက (၇၃၆၁.၂၄ စတုရန်းမီတာ) ကိုငှားရမ်း၍ (BOT) စနစ်ဖြင့် ရုံးခန်းများ၊ ဈေးဆိုင်ခန်းများ တည်ဆောက်ဖွင့်လှစ်လုပ်ကိုင်ဆောင်ရွက်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၃၁-၈-၂၀၀၄) နေ့တွင်ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၂/၂၀၀၄) ကြိမ်မြောက်အစည်းအဝေး သို့တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှ မူအားဖြင့်သဘောတူညီခဲ့ပြီး (၁၅-၉-၂၀၀၄) နေ့တွင်ကျင်းပသော ကုန်သွယ်မှုမူဝါဒ ကောင်စီ၏ (၂၈/၂၀၀၄) ကြိမ်မြောက် အစည်းအဝေး သို့ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါအစည်းအဝေး မှသဘောတူညီချက်အရ အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၂၉-၁၀-၂၀၀၄) နေ့တွင်ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၄၁/၂၀၀၄) ကြိမ် မြောက်အစည်းအဝေး သို့တင်ပြခဲ့ရာ ယင်းအစည်းအဝေး မှသဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂/-

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၅) ပုဒ်မ ၁၀ နှင့် ယင်းဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း (၄) အပိုဒ် ၁၂ တို့နှင့်အညီ ရွှေဖြူဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် ( Shwe Byu Construction Co.,Ltd.) သို့ ထုတ်ပေးမည့် ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာတွင် လက်မှတ်ရေးထိုးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

၂၃-၁၁-၂၀၀၄။

ဥက္ကဋ္ဌ။

လျှို့ဝှက်ကိစ္စ — ထိပ်တန်းလျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
အစိုးရအဖွဲ့
ရန်ကုန်မြို့

စာအမှတ်၊ ၄၁/၂၀၀၄ ဆဖရ ၂၀၀၄(၆)
ရက်စွဲ၊ ၂၀၀၄ ခုနှစ် နိုဝင်ဘာ လ ၂ ရက်။

**အမှာစာ**

အကြောင်းအရာ။ ။ ရွှေဖြူ ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Shwe Byu Construction Co., Ltd. ) မှ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မြေကို ငှါးရမ်း၍ (B.O.T) စနစ်ဖြင့် ရုံးခန်းများ၊ ဈေးဆိုင်ခန်းများတည်ဆောက်၍ ဖွင့်လှစ်လုပ်ကိုင်ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ

၁။ ၂၀၀၄ ခုနှစ် အောက်တိုဘာ လ ၂၈ ရက် ( သောကြာ ) နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ၄၁/၂၀၀၄ မှတ်တမ်းမှ ကောက်နုတ်ချက် မိတ္တူတစ်စောင်ကို ဆောင်ရွက်နိုင်ရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကိုရရှိကြောင်းပြန်ကြားရန်နှင့် ဌာနဆိုင်ရာအရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(စိန်သန်း)

ဝန်ကြီး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရထားပို့ဆောင်ရေးဝန်ကြီးဌာန
ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန

၂၀၀၄ ခုနှစ် အောက်တိုဘာလ ၂၉ ရက်နေ့တွင်ကျင်းပသော ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရ အဖွဲ့အစည်းအဝေး အမှတ်စဉ် (၄၁/၂၀၀၄) မှတ်တမ်း ကောက်နှုတ်ချက်။

၆။ ရွှေဖြူ ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Shwe Byu Construction Co., Ltd.) မှ ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထား ပိုင်မြေကို ငှားရမ်း၍ (B. O.T) စနစ်ဖြင့် ရုံးခန်းများ၊ ဈေးဆိုင်ခန်းများ တည်ဆောက်၍ ဖွင့်လှစ်လုပ်ကိုင်ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စ။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၄ ခုနှစ်၊ အောက်တိုဘာလ ၂၁ ရက်နေ့စွဲပါ အမှာစာအမှတ်၊ ရက-၆ (ခ) / မ-၁၄၁၁/ ၂၀၀၄ (၄၇၉၁)။

အောက်ပါအတိုင်း ဆုံးဖြတ်ကြသည်-

(က) အမှာစာတွင်တင်ပြထားသည့်အတိုင်း ရွှေဖြူဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်အား မြန်မာ့မီးရထားပိုင်မြေကို ငှားရမ်း၍ ( B.O.T ) စနစ်ဖြင့် ရုံးခန်းများ ၊ ဈေးဆိုင်ခန်းများ တည်ဆောက်၍ ဖွင့်လှစ်လုပ်ကိုင် ဆောင်ရွက်ခွင့်ပြုရန်၊

(ခ) အဆိုပါကုမ္ပဏီအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင်တစ်ဆက်တည်း (၃) နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ပြုရန်၊

(ဂ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ ပါလုပ်ငန်းနှင့်သက်ဆိုင်သည့် အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ကို အမှာစာ၏အပိုဒ် ၁၃ ပါအတိုင်း လျှော့ထားပေ ရန်။

ဆောင်ရွက်ရန်၊
ရင်းနှီး + မြှုပ်နှံ။
ရထားပို့ဆောင်ရေး။
ဘဏ္ဍာ + အခွန် ။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက–ဗ(၁)/မ–၁၄၁၁/၂၀၀၄ (၄၇၉၁)။
ရက်စွဲ၊ ၂၀၀၄ ခုနှစ်၊ အောက်တိုဘာလ ၂၁ ရက်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့်

အမှာစာ

အကြောင်းအရာ။ ။ရွှေဖြူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Shwe Byu Construction Co.. Ltd.) မှ ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထား ပိုင်မြေကို ငှားရမ်း၍ (B.O.T) စနစ်ဖြင့် ရုံးခန်းများ၊ ဈေးဆိုင်ခန်းများ တည်ဆောက်၍ ဖွင့်လှစ် လုပ်ကိုင် ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော ရွှေဖြူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Shwe Byu Construction Co., Ltd.) သည် ကချင်ပြည်နယ် မြစ်ကြီးနားမြို့၊ အောင်နန်းရပ်ကွက်၊ ဘူတာမြောက်ရပ်၊ အကွက် အမှတ်(၂၄)ရှိ ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားမှ ပိုင်ဆိုင်သော မြေဧရိယာ (၁.၈၁၉)ဧက (၇၃၆၁.၂၄)စတုရန်းမီတာကို ငှားရမ်း၍ (B.O.T) စနစ်ဖြင့် ရုံးခန်းများ၊ ဈေးဆိုင်ခန်းများ တည်ဆောက်၍ ဖွင့်လှစ် လုပ်ကိုင် ဆောင်ရွက်ခြင်း ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ယင်းအဆိုပြု ချက်ကို (၃၀–၈–၂၀၀၄) နေ့တွင် ကျင်းပခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၂/၂၀၀၄) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်း အစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး ကုန်သွယ်မှု မူဝါဒကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ (၁၅–၉–၂၀၀၄)နေ့တွင် ကျင်းပသည့် ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၂၈/၂၀၀၄) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ အဆိုပြုတင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ၍ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြု ချက်နှင့်အတူ (B.O.T) စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)နှင့် ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက် တို့ကို နောက်ဆက်တွဲ (၁) အဖြစ် တင်ပြအပ်ပါသည်။

၂။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ စုစုပေါင်းကျပ် (၁၁၀၀.၀၀)သန်း ဖြစ်ပါသည်။ အဆိုပြု လုပ်ငန်းအတွက် ဆောက်လုပ်ရေးသုံး ပစ္စည်းအချို့နှင့် မီးစက် AKSA Generator Prime Power 150 KVA ကို ပြည်တွင်းမှ ဝယ်ယူထားပြီး လိုအပ်သော လျှပ်စစ်ဓါတ်အားကို ကိုယ်ပိုင် မီးစက်ဖြင့် အသုံးပြုမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ အကောက်ခွန် ဦးစီးဌာနမှ AKSA Generator Prime Power 150 KVA မီးစက် တင်သွင်းခဲ့မှုနှင့် ပတ်သက်၍ အခွန်အခများ ပေးဆောင်ပြီးပါကြောင်း ပြန်ကြား ထားပါသည်။

၃။ ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် ရွှေဖြူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် တို့ **ချုပ်ဆိုမည့်** (B.O.T) စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) မြေငှားရမ်းကာလမှာ တည်ဆောက်ရေးကာလ (၁၂)လ ပြည့်မြောက်သည့် နေ့မှစ၍ ကနဦး (၁၅)နှစ်နှင့် နောက်ထပ်(၅)နှစ် (၁)ကြိမ်ဆက်လက်ငှားရမ်းခွင့် ရှိပါသည်။

(ခ) မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ကျပ် (၄၉.၁၁) သန်းကို (၃)ရစ်ခွဲ၍ မြန်မာ မီးရထားသို့ အောက်ပါအတိုင်း ပေးသွင်းရပါမည်။

ပထမအရစ် – ကျပ်(၂၀.၁၁)သန်း (စာချုပ် လက်မှတ်ရေးထိုး သည့်နေ့မှ ရက်ပေါင်း ၃၀အတွင်း)

ဒုတိယအရစ် – ကျပ် (၁၄.၅၀) သန်း (ပထမအရစ် ပေးသွင်းပြီးသည့် နေ့မှ (၆)လအတွင်း)

တတိယအရစ်–ကျပ် (၁၄.၅၀)သန်း (ဒုတိယအရစ် ပေးသွင်းပြီးသည့် နေ့မှ (၆)လအတွင်း)

(ဂ) မြေငှားရမ်းခအဖြစ် ကုမ္ပဏီမှ ဆောက်လုပ်သည့် အဆောက်အဦ(၆)လုံး၏ အငှားချထား နိုင်သည့် ကြမ်းပြင်ဧရိယာ (၁၁၃၁၇) စတုရန်း မီတာ အတွက် တစ်နှစ်လျှင် တစ်စတုရန်း မီတာကို ကျပ်(၆၅၀)နှုန်းဖြင့် ကျပ်(၇.၃၆)သန်းနှင့် ယာဉ်ရပ်နားရန် မြေနေရာ (၂၇၁၉.၁၀) စတုရန်းမီတာ အတွက် တစ်နှစ်လျှင် တစ်စတုရန်း မီတာကိုကျပ် (၄၅၀) နှုန်းဖြင့် နှစ်စဉ် ကျပ် (၁.၂၂)သန်းတို့ကို ပေးသွင်းရမည်ဖြစ်၍ စုစုပေါင်း ငှားရမ်းခ တစ်နှစ် အတွက် ကျပ်(၈.၅၈)သန်းကို ပေးသွင်းရမည် ဖြစ်ပါသည်။

(ဃ) မြေငှားရမ်းခများကို တည်ဆောက်ရေးကာလ (၁၂)လ ပြည့်မြောက်သည့်နေ့မှ အစပြု၍ ပေးသွင်းရပါမည်။

(င) နှစ်စဉ်ငှားရမ်းခများကို ငှားရမ်းကာလ စတင်သည့်နေ့မှစ၍ (၃)လ တစ်ကြိမ်ပေးသွင်း ရာတွင် ပထမလ၏ လဆန်း (၁၀)ရက် အတွင်း ကြိုတင်ပေးသွင်းရပါမည်။

(စ) မြေငှားရမ်းခနှုန်းကို (၅)နှစ်လျှင် တစ်ကြိမ် ပြန်လည် စိစစ်ရာ၌ ပြီခဲ့သော (၅)နှစ်ကာလ အတွက် သတ်မှတ်ငှားရမ်းခနှုန်း၏ (၁၅)ရာခိုင်နှုန်းထက်မပိုစေဘဲ တိုးမြှင့် ပြင်ဆင်ခွင့်ရှိ သည်။

(ဆ) ငှားရမ်းခများ ပေးသွင်းခြင်းကို ခိုင်လုံသော အကြောင်းပြချက် မရှိဘဲ (၃)လအောက် ပေးချေရန် ပျက်ကွက်ပါက ကော်မရှင်၏ အကြည်ပြုချက်ရယူ၍ တစ်ဖက်သတ် ရုပ်သိမ်း ပိုင်ခွင့်ရှိပါ သည်။

(ဇ) ရွှေဖြူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်သည် ဆောက်လုပ်သည့် အဆောက်အဦရှိ အခန်းများကို နိုင်ငံခြားသား (သို့မဟုတ်) နိုင်ငံခြားသားပိုင် ကုမ္ပဏီသို့ တစ်နှစ်ထက်ကျော်လွန်၍ ထပ်ဆင့် ငှားရမ်းမည် ဆိုပါက ၁၉၈၇ ခုနှစ်၊ မရွှေ့မပြောင်းနိုင်သော ပစ္စည်းများ လွှဲပြောင်းခြင်းကို ကန့်သတ်သည့် ဥပဒေပုဒ်မ (၁၄)အရ သက်ဆိုင်ရာ ဝန်ကြီးဌာနက ထုတ်ပေးသော "ကင်းလွတ်ခွင့်ပြုသည့် အမိန့် " ရရှိပြီး ဖြစ်ရမည် ဖြစ်ပါသည်။

(ဈ) ငှားရမ်းကာလကုန်ဆုံးသည့်အခါ မြေနှင့်တကွ အဆောက်အဦ အပါအဝင် အဆောက်အဦနှင့် ဆက်စပ်ပတ်သက်နေသော ပစ္စည်းများကို မူမပျက်ထားရှိပြီး ကောင်းမွန်စွာ အသုံးပြုနိုင်သည့် အခြေအနေအတိုင်း မြန်မာ့ မီးရထားသို့ အဖိုးစားနားတစ်စုံ တစ်ရာ တောင်းခံမှု မရှိဘဲ (၃)လအတွင်း ပြန်လည် လွှဲပြောင်းပေးရပါမည်။ ယင်းသို့ လွှဲပြောင်းပေးရာတွင် အဆောက်အဦမှာ အလွတ်သက်သက် ဖြစ်ရပါမည်။

၄။ ယင်းလုပ်ငန်းမှ (၃၀၀´×၄၅´)ရှိ ၃ထပ်ခွဲ အဆောက်အဦ(၂)လုံး၊ (၆၀´×၄၅´)ရှိ ၄ထပ်ခွဲ အဆောက်အဦ (၁)လုံး၊ (၇၅´×၄၅´)ရှိ ၃ထပ်ခွဲ အဆောက်အဦ(၁)လုံး၊ (၃၀၀´×၄၅´)ရှိ ၂ထပ်အဆောက်အဦ (၁)လုံး၊ (၇၅´×၄၅´) ရှိ ၂ထပ် အဆောက်အဦ (၁)လုံး၊ {စုစုပေါင်းတိုက် (၆)လုံး၏ စုစုပေါင်း ကြမ်းခင်းဧရိယာ (၁၄၁၄၆.၁၂) စတုရန်းမီတာ}ကို ဆောက်လုပ်ငှားရမ်းမည် ဖြစ်ပြီး ပုံမှန်နှစ်၏ ငှားရမ်းခနှုန်းမှာ တစ်နှစ် တစ်စတုရန်း မီတာ လျှင် ကျပ် (၁၅၀၀၀) နှုန်းဖြင့် ငှားရမ်းမည် ဖြစ်ပါ သည်။

၅။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၁၁)နှစ်နှင့်(၃)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ် နှုန်း (IRR) မှာ (၁၀.၈၀) ရာခိုင်နှုန်း ဖြစ်ပါသည်။

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | | |
|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် ၂၇.၄၈ သန်း |
| (ခ) | မြေငှားရမ်းခရငွေ | ကျပ် ၈.၅၈ သန်း |
| | စုစုပေါင်း | ကျပ် ၃၆.၀၆ သန်း |

၇။ လုပ်ငန်းကို အကောင်အထည်ဖော် ဆောင်ရွက်ရန်အတွက် ပြည်တွင်း ပန်ယမ်း (၇၈)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၈။ ကချင်ပြည်နယ် အားကျစ်သာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ လုပ်ငန်းဆောင်ရွက်ရန် လျှောက်ထားချက်အပေါ် ကန့်ကွက်ရန်မရှိကြောင်း တင်ပြထားပါသည်။

၉။ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆောင်ရွက်နေစဉ်အဆိုပြု(B.O.T)လုပ်ငန်း မြေနေရာသည် အခြားဆိုင်ခန်း နေရာများနှင့် ကင်းလွတ်ခြင်း ရှိ-မရှိကို ရထားပို့ဆောင်ရေး ဝန်ကြီးဌာနသို့ ပြန်လည်မေးမြန်းခဲ့ရာ ရွှေဖြူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်မှ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာသည် မီးရထားပိုင်မြေပေါ်ရှိ အခြားဆိုင်ခန်းများ မြေနေရာနှင့် သီးခြားစီဖြစ်ပါကြောင်း ပြန်ကြားထားပါသည်။

၁၇။ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာနမှ AKSA Generator Prime Power 150 KVA မီးစက်ကို တင်သွင်းခဲ့ခြင်းမှာ ပို့ကုန်မှ ရရှိသော ဝင်ငွေများဖြင့် တင်သွင်းခဲ့ခြင်း ဖြစ်ပါကြောင်း ပြန်ကြားလာပါသည်။

၁၈။ ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် ရွှေဖြူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် အုပ်ချုပ်မှု ဒါရိုက်တာ ဒေါ်ဆမ်ပရီ၏ ယမဝါယမဘဏ် (မန္တလေး)ရှိ (၄-၃-၂၀၀၄)နေ့ ဘဏ်လက်ကျန်မှာ ကျပ်(၆၀) သန်း၊ ရတနာပုံ ဘဏ်လီမိတက် (မန္တလေး)ရှိ (၁၂-၅-၂၀၀၄)နေ့ရှိ ဘဏ်လက်ကျန်မှာ ကျပ်(၅၁.၄၂)သန်း၊ ရိုးမဘဏ် (မန္တလေး)ရှိ (၁၈-၈-၂၀၀၄)နေ့ ဘဏ်လက်ကျန်မှာ ကျပ်(၃၀၂.၃၄)သန်း နှင့် ဒါရိုက်တာဖြစ်သူ ဗိုလ်ကြီးဒေါ်စုစု (ငြိမ်း)၏ မြန်မာ့ဓမ္မမြို့ရေးနှင့် ရေလုပ်ငန်းဖွံ့ဖြိုးရေးဘဏ် လီမိတက်ရှိ (၁၇-၈-၂၀၀၄) နေ့ ဘဏ်လက်ကျန်မှာ ကျပ်(၁၀၀.၀၄)သန်း၊ စုစုပေါင်း ကျပ်(၅၁၃.၈၀)သန်းရှိကြောင်း တင်ပြထားပါသဖြင့် သုံးစွဲရန်ငွေ၏ (၇၂.၂၄%)ရှိကြောင်း တွေ့ရပါသည်။

၁၂။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု ပတ်ဝန်းကျင် ထိန်းသိမ်းမှုများနှင့် ပတ်သက်၍ လမ်းညွှန်ချက်နှင့် အညီလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိများပြုထားပါသည်။

၁၉။ ကုမ္ပဏီမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂နှင့် ၁၃ပါ အခွန်ဆိုင်ရာ ကင်းလွတ် ခွင့်နှင့် သက်သာခွင့်များကိုခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂အရ စီးပွားရေးလုပ်ငန်း စတင်သော နှစ်အပါအဝင် ဆက်တိုက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပေးရမည် ဖြစ်ပါသည်။ ဥပဒေ ပုဒ်မ ၁၃မှ လုပ်ငန်းနှင့် သက်ဆိုင်သည့် အောက်ဖော်ပြပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားလိုပါက ကော်မရှင်သို့ လျှောက်ထားရမည်ဖြစ်ပါသည်-

(က) ဥပဒေပုဒ်မ ၁၃(က)အရ နိုင်ငံတော်အတွက် အကျိုးဖြစ်ထွန်းသော စီးပွားရေး လုပ်ငန်းဖြစ်ပြီး ကုန်ထုတ်လုပ်မှုကြောင့်ဖြစ်စေ၊ ဝန်ဆောင်မှု လုပ်ငန်း ကြောင့်ဖြစ်စေ သတ်မှတ်သည့်နှုန်း အထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့်အညီ ဝင်ငွေခွန် သက်သာခွင့်၊

(ခ) ဥပဒေ ပုဒ်မ ၁၃(ခ)အရ စီးပွားရေး လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို ပြန်လည် ရင်းနှီးမြှုပ်နှံရန် သီးသန့်ရန်ပုံငွေထား၍ (၁)နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်၊

(ဂ) ဥပဒေ ပုဒ်မ ၁၃(ဃ)အရ ဝင်ငွေခွန်စည်းကြပ်ရန် အလို့ငှာ စက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံးအခြား မတည်ပစ္စည်းများ၏ ပစ္စည်းတန်ဖိုးလျော့ငွေ ကို သတ်မှတ်ထားသည့် နှုန်းထားများ အတိုင်းနှစ်တိုတိုနှင့် မူလတန်ဖိုး ပြည့်မီသည် အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်၊



SHW-CA-1.DOC

၁၄။ ဆုံးဖြတ်ရန်အချက်။

(က) ရွှေဖြူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Shwe Byu Construction Co., Ltd.) သည် ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားမှ ပိုင်သောမြေကို ငှားရမ်း၍ (B.O.T) စနစ်ဖြင့် ရုံးခန်းများ၊ ဈေးဆိုင်ခန်းများ တည်ဆောက်၍ ဖွင့်လှစ်လုပ်ကိုင် ဆောင်ရွက်ရန် အဆိုပြု တင်ပြ ခြင်းကို ခွင့်ပြုရန်သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက

(၁) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုရန် သဘောတူ–မတူ။

(၂) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃ ပါ လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို အထက်အပိုဒ် ၁၃ပါ အတိုင်း လျှောက်ထားစေရန် သဘောတူ -မတူ။

၁၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်၊ အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။

ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | ရွှေဖြူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Shwe Byu Construction Co., Ltd.) | ၁။ ဒေါ်ဆမ်ပရီ (အုပ်ချုပ်မှုဒါရိုက်တာ) | အမှတ် (၁၁၁)၊ စိတ္တရမဟီရပ်ကွက်(၇၃လမ်းနှင့် ၂၉လမ်းထောင့်)၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။ |
| | | ၂။ ဦးထွန်းရီ (ဒါရိုက်တာ) | အမှတ် (၃/၁၀)၊ မဟာမြိုင်(၁)၊ မဟာအောင်မြေမြို့နယ်၊ မန္တလေးမြို့။ |
| | | ၃။ ဦးထွန်းဦး (ဒါရိုက်တာ) | အမှတ် (၃/၁၀)၊ မဟာမြိုင်(၁)၊ မဟာအောင်မြေမြို့နယ်၊ မန္တလေးမြို့။ |
| | | ၄။ ဒေါ်ဆိုင်းမိုင် (ဒါရိုက်တာ) | အမှတ် (၁၁၁)၊ စိတ္တရမဟီရပ်ကွက်(၇၃လမ်းနှင့် ၂၉လမ်းထောင့်)၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။ |
| | | ၅။ ဗိုလ်ကြီးဒေါ်စုစု(ငြိမ်း) (ဒါရိုက်တာ) | အမှတ် (၅၂)၊ (စီ-၁)၊ အနောက်မျဉ်းပြိုင်ကွင်းလမ်း၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။ |

| | |
|---|---|
| ၁။ ကုမ္ပဏီ၏ တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - (၀၂-၃၁၇၃၂)၊(၀၂-၃၂၉၆၆)။ |
| ၂။ ကုမ္ပဏီ၏ လိပ်စာအပြည့်အစုံ | - အမှတ်(၁၁၁/အေ)၊ (၇၃လမ်းနှင့်၂၉လမ်းထောင့်)၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။ |
| ၃။ ကုမ္ပဏီ၏ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဗိုလ်ကြီးဒေါ်စုစု (ငြိမ်း)၊ ဒါရိုက်တာ |
| ၄။ ကုမ္ပဏီ အနေဖြင့် ဆောင်ရွက်သည့် လုပ်ငန်းများ | - (ဘီအိုတီ) စနစ်ဖြင့် ရုံးခန်းများ၊ ဈေးဆိုင်ခန်းများ တည်ဆောက်၍ ဖွင့်လှစ်လုပ်ကိုင် ဆောင်ရွက်ခြင်း။ |
| ၅။ ကုမ္ပဏီ မှတ်ပုံတင်အမှတ်နှင့်နေ့စွဲ | - ၄၅၈/၁၉၉၂-၁၉၉၃(၂၀-၁၀-၁၉၉၂) |
| ၆။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - သမဝါယမဘဏ်လီမိတက် (မန္တလေး)၊ (ဘဏ်စာရင်းအမှတ်-၀၅၉၂၀၀၁၂၃၀)<br>- ရတနာပုံဘဏ်လီမိတက် (မန္တလေး) (စာရင်းရှင်အမှတ်အာရ်-၂)<br>- ရှီးမဘဏ် (မန္တလေး) (ဘဏ်စာရင်းအမှတ်-၀၄၁၃၁၀၀၆၂၆၆၂)<br>- မြန်မာ့ဈေးမြို့ရေးနှင့် ရေလုပ်ငန်းဖွံ့ဖြိုးရေးဘဏ်လီမိတက် (ဘဏ်စာရင်းအမှတ်-၀၀၁၁၁၁၀၀၁၆၆၁၆) |



၃.၂၆
၂၇/၉

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ကုန်သွယ်မှုမူဝါဒကောင်စီ
ဝန်ကြီးများရုံး
ရန်ကုန်မြို့

စာအမှတ် အမစ/ကသ/၃/၂၈(၇၈၉/၂၀၀၄)

ရက်စွဲ၊ ၂၀၀၄ ခုနှစ်၊ စက်တင်ဘာလ(၂၂)ရက်

**အမှာစာ**

အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ကုန်သွယ်မှုမူဝါဒကောင်စီ၏ ဆုံးဖြတ်ချက်များပေးပို့ခြင်း။

ရည်ညွှန်းချက်။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏
(က)၁၀-၉-၂၀၀၄ ရက်စွဲပါ စာအမှတ် ရက-၁/၀၂၉/၂၀၀၄(၄၀၇၉)
(ခ)၃-၉-၂၀၀၄ ရက်စွဲပါ စာအမှတ် ရက-ရ(ဂ)/န-၀၅၆/၂၀၀၄(၃၉၆၁)

၂၀၀၄ ခုနှစ်၊ စက်တင်ဘာလ (၁၅)ရက်နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေး အမှတ်စဉ် ၂၈/၂၀၀၄ မှတ်တမ်းမှ ကောက်နုတ်ချက်မိတ္တူတစ်စောင်ကို လိုအပ်သလို အရေးယူဆောင်ရွက်နိုင်ရန် ပေးပို့အပ်ပါသည်။

အမိန့်အရ -

အတွင်းရေးမှူး
(စိုးသာ၊ဝန်ကြီး)
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

မိတ္တူကို - (၁)နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီဥက္ကဋ္ဌရုံး။
- (၂)ပို့ဆောင်ရေးဝန်ကြီးဌာန။
- (၃)စာရင်းစစ်ချုပ်။
- (၄)ရုံးလက်ခံ။

လျှို့ဝှက်

AN/SK 20-9-04



ပြည်ထောင်စုမြန်မာနိုင်ငံတော်
ကုန်သွယ်မှုမူဝါဒကောင်စီ
ဝန်ကြီးများရုံး
ရန်ကုန်မြို့

၂၀၀၄ ခုနှစ်၊ စက်တင်ဘာလ(၁၅)ရက်နေ့တွင် ကျင်းပသောပြည်ထောင်စုမြန်မာနိုင်ငံတော်ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၂၈/၂၀၀၄) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၀(က) | ၅၁ | ရွှေဖြူဆောက်လုပ်ရေးကုမ္ပဏီလီမိတက် (Shwe Byu Construction Co., Ltd.) မှ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင်မြေကို ငှားရမ်း၍ (B.O.T) စနစ်ဖြင့် ရုံးခန်းများ၊ ဈေးဆိုင်ခန်းများ တည်ဆောက်၍ ဖွင့်လှစ်လုပ်ကိုင် ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ၍ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ပါသည်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် |
| ၁၀(ခ) | ၅၂ | × × × × × × × ×<br>× × × × × × × ×<br>× × × × × × × ×<br>× × × × × × × × | |



ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရှေ့နေချုပ်ရုံး

စာအမှတ် ၂(၅)၇-၂ (၁၅)
ရက်စွဲ၊ ၂၀၀၄ ခုနှစ်၊ ဇန်နဝါရီလ ၁၉ ရက်

အကြောင်းအရာ။ မြန်မာ့မီးရထားနှင့် ရွှေဖြူထရေးဒင်းကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် **BOT** စနစ်ဖြင့် မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်း

ရည် ညွှန်း ချက်။ မြန်မာ့မီးရထား၏ ၁၃-၁-၂၀၀၄ ရက်စွဲပါစာအမှတ်၊ ၃၅၁-အလ-၂၀၀၄ (တိုင်း-၁)၆၇

၁။ မြန်မာ့မီးရထားပိုင် မြစ်ကြီးနားမြို့ သခင်နက်ဖေလမ်းနှင့် ဈေးကြီးလမ်းပေါ် ရှိမြေအား BOT စနစ်ဖြင့် ငှားရမ်းရန် မြန်မာ့မီးရထားနှင့်ရွှေဖြူထရေးဒင်း ကုမ္ပဏီလီမိတက်တို့ချုပ်ဆိုမည့် စာချုပ် (မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသည့် ကိစ္စ ဖြစ်ပါသည်။

၂။ ရည်ညွှန်းစာနှင့် ပူးတွဲပေးပို့ခဲ့သော စာချုပ် (မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ လေ့လာ စိစစ်၍ အောက်ပါအတိုင်း အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း)အပိုဒ် ၂ (ခ)တွင် အငှားချထားသူပိုင်မြေနေရာကို ပြသည့် မြေပုံကိုနောက်ဆက်တွဲ(က)အဖြစ် ပူးတွဲဖော်ပြထားကြောင်း ဖော်ပြထားသော် လည်း စာချုပ်(မူကြမ်း)တွင်ပါရှိမလာသဖြင့် စာချုပ်လက်မှတ်ရေးထိုးသည့် အချိန်တွင် ပူးတွဲပြီးဖြစ်ရန်လိုအပ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)တွင်ဆောက်လုပ်မည့်အဆောက်အဦတွင် တပ်ဆင်မည့် ရေ၊ လျှပ်စစ်၊ တယ်လီဖုန်းရရှိရေးနှင့် ငှားရမ်းသည့်မြေပေါ်တွင် တည်ဆဲဥပဒေများ နှင့်ဆန့်ကျင်သည့် လုပ်ငန်းဆောင်ရွက်ခြင်းမပြုရေးတို့အတွက် အပိုဒ် ၁၀(ဈ) နှင့် ၁၀(ည)တို့ကို ဖြည့်စွက်ရေးသားပေးလိုက်ပါသည်၊

(ဂ) အခြားလိုအပ်သောနေရာများတွင် မင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ရေးသားပေး လိုက်ပါသည်။

၃။ တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ ကံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရရှိသေးပါက ကျသင့်သည့်တံဆိပ်ခေါင်းခွန်ကို အငှားချထားခြင်းခံရသူကထမ်းဆောင်ရမည်ဖြစ်ပါသည်။

၄။ ရွှေဖြူထရေးဒင်းကုမ္ပဏီလီမိတက်သည် ကုမ္ပဏီဥပဒေအရ တရားဝင်ဖွဲ့စည်းထားခြင်း ရှိ မရှိ၊ စာချုပ်ပါလုပ်ငန်းကိုလုပ်ကိုင်ရန်ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်ပါလုပ်ငန်းကိုလုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူ ဟုတ် မဟုတ် စသည်တို့ကို ကြိုတင်စိစစ်ထားရန်လိုအပ်ပါသည်။

၅။ ဤစာချုပ်ကိုလက်မှတ်ရေးထိုးပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ ၃ စုံပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
( မေဒင်၊ ညွှန်ကြားရေးမှူး )

မြန်မာ့မီးရထား

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

စာအမှတ်၊ စ-၁၅၇ / သွင်းကုန် ( ၂၃၁၈)
ရက်စွဲ၊ ၂၀၀၄ခုနှစ်၊ ဇူလိုင် ( ၁၆ ) ရက်

အကြောင်းအရာ ။ ။ **ရွှေဖြူဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်၏ အဆောက်အဦး ဆောက်လုပ်ရန် ကိစ္စ။**

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁-၇-၀၄ ရက်စွဲပါစာအမှတ်၊ ရကာ-၆(က) မ-၉၃၉/၂၀၀၄ (၂၀၀၈- )

ရည်ညွှန်းပါစာဖြင့် ပူးတွဲပေးပို့လာသော U Aik Shin Family Gems Jewellery Co.Ltd မှ Aksa Generator Prime Power 150 KVA ကို တင်သွင်းခြင်းမှာ ပူးတွဲပါ လိုင်စင်အရ ပို့ကုန်မှ ရရှိသော ဝင်ငွေများဖြင့် တင်သွင်းခဲ့ခြင်း ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(အေးလွင် - ညွှန်ကြားရေးမှူး)
လွင်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စု မြန်မာနိုင်ငံတော် အတွင်း မြန်မာနိုင်ငံသားများ
ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ ၏ ဆောင်ရွက်ရန်

# အဆိုပြုချက်

ရွှေ ဖြူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်



# PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR

**SHWE BYU CONSTRUCTION COMPANY LIMITED**

R . ၁၁၄
၆/၁၀



ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ
ရထားပို့ဆောင်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ် ၁/၆၁/၂၀၀၄(၂၄၀၀ )

ရက်စွဲ ၂၀၀၄ ခုနှစ်၊ အောက်တိုဘာလ ၆ ရက်

# အမှာစာ

အကြောင်းအရာ။ ရွှေဖြူဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်သို့မြန်မာ့မီးရထားပိုင်မြေပေါ်တွင်ရုံးခန်း၊ ဆိုင်ခန်းများ ဆောက်လုပ်ငှားရမ်းခွင့်ပြုရန်ကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၄-၁၀-၂၀၀၄ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/ မ-၉၁၉/၂၀၀၄(၄၄၂၇)

၂၀၀၄ ခုနှစ်၊ စက်တင်ဘာလ (၁၅) ရက်နေ့တွင်ကျင်းပပြုလုပ်သည့် ကုန်သွယ်မှုမူဝါဒကော်မတီ၏ (၂၈/၂၀၀၄) အစည်းအဝေးဆုံးဖြတ်ချက်အရ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ဆက်လက်တင်ပြနိုင်ရန်အတွက် ကုမ္ပဏီလုပ်ငန်းအဆိုပြုလွှာ (၂၂) စုံကိုပူးတွဲပေးပို့တင်ပြအပ်ပါသည်။

ဒုတိယဝန်ကြီး (ကိုယ်စား)
(ဘွမြင့် - ရုံးအဖွဲ့မှူး)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ရထားပို့ဆောင်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး



စာအမှတ် ၁/၆၁/၂၀၀၄( ၂၁၁၈ )

ရက်စွဲ ၂၀၀၄ ခုနှစ်၊ စက်တင်ဘာလ ၂ ရက်

# အမှာစာ

အကြောင်းအရာ။ <u>ရွှေဖြူဆောက်လုပ်ရေးကုမ္ပဏီလီမိတက် ( Shwe Byu Construction Co., Ltd ) မြန်မာ့မီးရထား ပိုင်မြေကိုငှားရမ်း၍ B.O.T စနစ်ဖြင့်ရုံးခန်းများ၊ ဈေးဆိုင်ခန်းများ တည်ဆောက်၍ ဖွင့်လှစ်လုပ်ကိုင်ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁-၉-၂၀၀၄ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၉၃၉/၂၀၀၄(၃၉၂၆)

၃၁-၈-၂၀၀၄ ရက် နေ့တွင်ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၃၂/၂၀၀၄ ) အစည်းအဝေးမှ ရွှေဖြူဆောက်လုပ်ရေးကုမ္ပဏီလီမိတက် ( Shwe Byu Construction Co., Ltd ) သည်မြန်မာ့မီးရထား ပိုင်မြေကိုငှားရမ်း၍ ( BOT ) စနစ်ဖြင့်ရုံးခန်းများ၊ ဈေးဆိုင်ခန်းများတည် ဆောက်ဖွင့်လှစ်လုပ်ကိုင် ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စကိုမူအားဖြင့်သဘောတူသဖြင့် ကုန်သွယ်မှုမူဝါဒကောင်စီသို့တင်ပြလမ်းညွှန်မှုခံယူရန်ဆုံးဖြတ်ပါသဖြင့်ကုန်သွယ်မှုမူဝါဒကောင်စီသို့ဆက်လက်တင်ပြနိုင်ပါရန်လုပ်ငန်း အဆိုပြုလွှာ ( ၃၀ ) စုံအားပူးတွဲပေးပို့ပါသည်။

<u>ပူးတွဲ</u> - အဆိုပြုလွှာ ( ၃၀ ) စုံ

ဒုတိယဝန်ကြီး ( ကိုယ်စား )
( လှမြင့် - ရုံးအဖွဲ့မှူး )

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ရထားပို့ဆောင်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး



စာအမှတ် ၁/၆၁/၂၀၀၄ ( ၂၀၂၃ )

ရက်စွဲ ၂၀၀၄ ခုနှစ်၊ ဩဂုတ်လ ၂၆ ရက်

၁၀၄/၂၄၈

## အစီရင်ခံစာ

အကြောင်းအရာ။ လုံလောက်သောငွေကြေးအထောက်အထား တင်ပြခြင်းကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၃-၈-၂၀၀၄ ရက်စွဲပါစာအမှတ်၊ ရက-၆ (က)/ မ-၉၃၉/၂၀၀၄ (၃၆၀၀)

မြန်မာ့မီးရထားနှင့် ရွှေဖြူဆောက်လုပ်ရေးကုမ္ပဏီလီမိတက်တို့အကျိုးတူပူးပေါင်း၍ မြစ်ကြီးနားမြို့၊ သခင်နက်ဖေလမ်းနှင့် ဈေးကြီးလမ်းထောင့်ရှိ မြန်မာ့မီးရထားပိုင်မြေပေါ်တွင် BOT စနစ်ဖြင့် ရုံးခန်း၊ ဆိုင်ခန်းများ ဆောက်လုပ်သွားရမည့် ဆောက်လုပ်ငန်းသုံးစွဲရန် လုံလောက်သောငွေကြေး အဖြစ် ဂျီးမဘဏ် ( မန္တလေး ) မှ ငွေကျပ် ၃၀၂.၃၄ သန်း နှင့် မြန်မာ့မွေးမြူရေးနှင့် ရေလုပ်ငန်းဖွံ့ဖြိုးရေးဘဏ်လီမိတက်မှ ငွေကျပ် ၁၀၀.၀၄၂ သန်း၊ စုစုပေါင်း ငွေကျပ် ၄၀၂.၃၈၂ သန်း ရှိပါကြောင်း ဘဏ်စာရင်း အထောက်အထား မိတ္တူများ တင်ပြလာပါသဖြင့် လမ်းညွှန်မှုပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

ဒုတိယဝန်ကြီး ( ကိုယ်စား )
( လှမြင့် - ရုံးအဖွဲ့မှူး )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူကို

မြန်မာ့မီးရထား

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

ရထားပို့ဆောင်ရေးဝန်ကြီးဌာန

ဝန်ကြီးရုံး




စာအမှတ် ၁/၆၁/၂၀၀၄ (၃၄၆၇)

ရက်စွဲ ၂၀၀၄ ခုနှစ်၊ ဇွန်လ ၂၂ ရက်

အမြန်စာ

အကြောင်းအရာ။ ရွှေဖြူဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ မြန်မာ့မီးရထား နှင့်အကျိုးတူပူးပေါင်း၍ မြစ်ကြီးနားမြို့၊ သခင်နက်ဖေလမ်း နှင့် ဈေးကြီးလမ်း ပေါ်ရှိမြန်မာ့မီးရထား ပိုင်မြေပေါ်တွင် BOT စနစ်ဖြင့် ရုံးခန်း၊ လူနေဆိုင်ခန်း များ ဆောက်လုပ်ခွင့်ပြုရန်ကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၄-၅-၂၀၀၄ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/ -၉၃၉/၂၀၀၄ (၂၀၂၃)

ရွှေဖြူဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ မြန်မာ့မီးရထား နှင့် အကျိုးတူပူးပေါင်း၍ မြစ်ကြီးနားမြို့၊ သခင်နက်ဖေလမ်း နှင့် ဈေးကြီးလမ်း ပေါ်ရှိ မြန်မာ့မီးရထား ပိုင်မြေပေါ်တွင် BOT စနစ်ဖြင့် ရုံးခန်း ၊ လူနေဆိုင်ခန်းများ ဆောက်လုပ်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်းစာပါ အကိုင်းလိုအပ်ချက်များ ပြင်ဆင်ဖြည့်စွက်၍ ပူးတွဲပေးပို့တင်ပြအပ်ပါသည်။

ဝန်ကြီး (ကိုယ်စား)

(သူရသောင်းလွင်-ဒုတိယဝန်ကြီး)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူ- မြန်မာ့မီးရထား

မြင့်*




ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ
ရထားပို့ဆောင်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ် ၁/၆၁/၂၀၀၄(၈၅(၂))
ရက်စွဲ ၂၀၀၄ ခုနှစ်၊ ဧပြီလ ၇၉ ရက်

# အမှာစာ

အကြောင်းအရာ။ မြန်မာ့မီးရထားနှင့်အကျိုးတူပူးပေါင်း၍ မြစ်ကြီးနားမြို့၊ သခင်နက်ဖေလမ်းနှင့် ဈေးကြီး လမ်းပေါ်ရှိ မြန်မာ့မီးရထားပိုင်မြေပေါ်တွင် အဆောက်အဦများဆောက်လုပ်ငှားရမ်း ခွင့်ပြုရန်ကိစ္စ

၁။ မြစ်ကြီးနားမြို့၊ သခင်နက်ဖေလမ်းနှင့် ဈေးကြီး လမ်းပေါ်ရှိ မြန်မာ့မီးရထားပိုင်မြေ (၁. ၈)ဧကပေါ်တွင် ရုံးခန်းနှင့်လူနေဆိုင်ခန်း (၇၁)ခန်းပါဝင်သော ခေတ်မီအဆောက်အဦ (၆)လုံးကို ရွှေဖြူထရိတ်ဒင်းကုမ္ပဏီလီမိတက် သို့ ရာနှုန်းပြည့် မတည်ရင်းနှီးမြှုပ်နှံဆောက်လုပ်၍ မြေငှားရမ်းခွင့်ပြုလိုပါသည်။

၂။ အဆိုပါမြေပေါ်တွင်(၄½)ထပ်(၁)လုံး၊ (၃½)ထပ်(၃)လုံးနှင့် (၂)ထပ်(၂)လုံး အဆောက်အဦများ ဆောက်လုပ် ၍ မြေအသုံးချမှု ပရီမီယံကြေးငွေကျပ် (၄၈၆)သိန်း နှင့် တစ်နှစ်လျှင် ငှားရမ်းခငွေကျပ် (၇၉၇၇၀၉၉. ၅၀)ကို ရွှေဖြူထရိတ်ဒင်းကုမ္ပဏီလီမိတက်မှ မြန်မာ့မီးရထားသို့ ပေးသွင်းစေလျက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် တည်ဆောက်ခြင်း၊ လုပ်ဆောင်ခြင်း၊ လွှဲပြောင်းပေးအပ်ခြင်း၊ B.O.T စနစ်ဖြင့် သက်တမ်း (၃၀)နှစ် ငှားရမ်းမည်ဖြစ်ပါသည်။

၃။ မြန်မာ့မီးရထားနှင့် ရွှေဖြူထရိတ်ဒင်းကုမ္ပဏီလီမိတက်တို့ နှစ်ဘက်ချုပ်ဆိုမည့်စာချုပ်ကို ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်တောင်းခံပြီး ဖြည့်စွက်ပြင်ဆင်ကာ နှစ်ဘက်သဘောတူစာချုပ်မူကြမ်းကို ရေးသားခဲ့ပါသည်။ (စာချုပ်မူကြမ်းပူးတွဲလျက်)

၄။ သို့ပါ၍ အဆိုပါမြန်မာ့မီးရထားပိုင်မြေ (၁. ၈)ဧက ငှားရမ်းရန်ကိစ္စအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ ဆက်လက်တင်ပြရန် ၂၉-၁၂-၂၀၀၃ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေး အမှတ်စဉ် (၈/၂၀၀၃)မှ ဆုံးဖြတ်ခဲ့ပါသဖြင့် လိုအပ်သလို လမ်းညွှန်မှု ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

၇၉/၄/၄

ဒုတိယဝန်ကြီး (ကိုယ်စား)
( လှမြင့် - ရုံးအဖွဲ့မှူး )

ဒါ၊ ၊
၃၀၊၄၊၂၀၀၄

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
မိတ္တူ။
မြန်မာ့မီးရထား



ပြည်နယ်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ
မြစ်ကြီးနားမြို့
စာအမှတ် ၊ ၁၂၄ / ၁ - ၂ / ပ ယ က ( ကချင် )
ရက်စွဲ ၊ ၂၀၀၄ ခုနှစ် ၊ မတ် လ ၁၂ ရက်

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့မီးရထား
ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ရန်ကုန်မြို့

အကြောင်းအရာ။ ရွှေဖြူထရေးဒင်ဒကုမ္ပဏီလီမိတက်မှ အဆင့်မြင့် ခေတ်မှီအဆောက်အဦးများ ဆောက်လုပ်ရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ

ရည်ညွှန်းချက် ။ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထား၏ ၂၄-၂-၂၀၀၄ ရက်စွဲပါ စာအမှတ် ၃၅၁ / အလ ( တိုင်း-၁)

၁။ မြန်မာ့မီးရထား၊ အမှတ်(၁)တိုင်း မြစ်ကြီးနားဘူတာမြောက်ဘက် သခင်နက်ဖေလမ်းပေါ်ရှိ မြန်မာ့မီးရထားပိုင်မြေ အကျယ်အဝန်း ( ၇၂၈၃.၉) စတုရန်းမီတာ ( ၁.၈-ဧက ) ရှိသော မြေနေရာပေါ်တွင် ခေတ်မှီအဆင့်မြင့် အဆောက်အဦး ဆောက်လုပ်ခွင့်ပြုရန် ရွှေဖြူထရေးဒင်းကုမ္ပဏီလီမိတက်က အဆိုပြုတင်ပြထားခြင်းနှင့် ပတ်သက်၍ မီးရထားဝန်ကြီးဌာနက မူအားဖြင့် သဘောတူညီချက်ရရှိပြီး မြန်မာနိုင်ငံ ရင်းနှီးမြုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြနိုင်ရန် စီစဉ်ဆောင်ရွက်လျက်ရှိကြောင်း ရည်ညွှန်းစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ကချင်ပြည်နယ်သည် နိုင်ငံတော်၏ မြေအောက်သယံဇာတနှင့်ပတ်သက်သော စီးပွားရေးလုပ်ငန်းများ ဖွံ့ဖြိုးသော ဒေသကြီးတစ်ခုဖြစ်ပြီး နိုင်ငံတော်မှ ကျင့်သုံးနေသော ဈေးကွက်စီးပွားရေးစနစ်အတွက် လိုက်လျောညီထွေဖြစ်စေသည့် အခြေခံအဆောက်အအုံများကို တစ်ဖက်တစ်လမ်းမှ အထောက်အကူပြု၍ ကချင်ပြည်နယ်၏မြို့တော် မြစ်ကြီးနားမြို့အား ပြည်နယ်၏မြို့တော်အင်္ဂါရပ်နှင့်အညီ နိုင်ငံတကာအဆင့်မှီ ဖွံ့ဖြိုးတိုးတက်သည့် မြို့တော်ဖြစ်လာနိုင်ရာ ရွှေဖြူထရေးဒင်းကုမ္ပလီမိတက်မှ အဆင့်မြင့် ခေတ်မှီ အဆောက်အဦးများ ဆောက်လုပ်ရန် တင်ပြလာမှုအား ကန့်ကွက်ရန်မရှိပါကြောင်း အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ ( ကိုယ်စား )
( ကြည်း ၁၁၅၃၉၊ ဒုတိယဗိုလ်မှူးကြီးမောင်မြို့၊ အတွင်းရေးမှူး )

မိတ္တူ
ဝန်ကြီး၊ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ရန်ကုန်မြို့။
လက်ခံစာတွဲ
မျှောစာတွဲ

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရှေ့နေချုပ်ရုံး

စာအမှတ် ၂(၅)၄-၂ (၁၇)
ရက်စွဲ၊ ၂၀၀၄ ခုနှစ်၊ ဇန်နဝါရီလ ၁၉ ရက်

အကြောင်းအရာ။ **မြန်မာ့မီးရထားနှင့် ရွှေဖြူထရေးဒင်းကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် BOT စနစ်ဖြင့် မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်း**

ရည် ညွှန်း ချက်။ မြန်မာ့မီးရထား၏ ၁၃-၁-၂၀၀၄ ရက်စွဲပါစာအမှတ်၊ ၃၅၀-အလ-၂၀၀၄ (တိုင်း-၁)၆၇

၁။ မြန်မာ့မီးရထားပိုင် မြစ်ကြီးနားမြို့ သခင်နက်ဖေလမ်းနှင့် ဈေးကြီးလမ်းပေါ် ရှိမြေအား BOT စနစ်ဖြင့် ငှားရမ်းရန် မြန်မာ့မီးရထားနှင့်ရွှေဖြူထရေးဒင်း ကုမ္ပဏီလီမိတက်တို့ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသည့် ကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းစာနှင့် ပူးတွဲပေးပို့ခဲ့သော စာချုပ် (မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း)အပိုဒ် ၂ (ခ)တွင် အငှားချထားသူပိုင်မြေနေရာကို ပြသည့် မြေပုံကိုနောက်ဆက်တွဲ(က)အဖြစ် ပူးတွဲဖော်ပြထားကြောင်း ဖော်ပြထားသော်လည်း စာချုပ်(မူကြမ်း)တွင်ပါရှိမလာသဖြင့် စာချုပ်လက်မှတ်ရေးထိုးသည့်အချိန်တွင် ပူးတွဲပြီးဖြစ်ရန်လိုအပ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)တွင်ဆောက်လုပ်မည့်အဆောက်အဦတွင် တပ်ဆင်မည့် ရေ၊ လျှပ်စစ်၊ တယ်လီဖုန်းရရှိရေးနှင့် ငှားရမ်းသည့်မြေပေါ်တွင် တည်ဆဲဥပဒေများနှင့်ဆန့်ကျင်သည့် လုပ်ငန်းဆောင်ရွက်ခြင်းမပြုရေးတို့အတွက် အပိုဒ် ၁၀(ဈ) နှင့် ၁၀(ည)တို့ကို ဖြည့်စွက်ရေးသားပေးလိုက်ပါသည်၊

(ဂ) အခြားလိုအပ်သောနေရာများတွင် မင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ရေးသားပေးလိုက်ပါသည်။

၃။ တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရရှိသေးပါက ကျသင့်သည့်တံဆိပ်ခေါင်းခွန်ကို အငှားချထားခြင်းခံရသူကထမ်းဆောင်ရမည်ဖြစ်ပါသည်။

၄။ ရွှေဖြူထရေးဒင်းကုမ္ပဏီလီမိတက်သည် ကုမ္ပဏီဥပဒေအရ တရားဝင်ဖွဲ့စည်းထားခြင်းရှိ မရှိ၊ စာချုပ်ပါလုပ်ငန်းကိုလုပ်ကိုင်ရန်ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်ပါလုပ်ငန်းကိုလုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူ ဟုတ် မဟုတ် စသည်တို့ကို ကြိုတင်စိစစ်ထားရန်လိုအပ်ပါသည်။

၅။ ဤစာချုပ်ကိုလက်မှတ်ရေးထိုးပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ ၃ စုံပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
( မေဒင်၊ ညွှန်ကြားရေးမှူး )

မြန်မာ့မီးရထား

# တည်ဆောက်ခြင်း၊ လုပ်ကိုင်ဆောင်ရွက်ခြင်း၊ လွှဲပြောင်းပေးခြင်းစနစ်(B.O.T)ဖြင့် မြေငှားရမ်းခြင်းသဘောတူကတိစာချုပ် ( မူကြမ်း )

ဤသဘောတူစာချုပ်ကို ခုနှစ်၊ လ ရက်နေ့တွင် ရန်ကုန်မြို့၌ ဦးမင်းဆွေ၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော မြန်မာ့မီးရထား (နောင်တွင် 'အငှားချထားသူ' ဟု ခေါ်တွင်မည်ဖြစ်ပြီး ယင်းစကားရပ်တွင် စာသားအရ လည်းကောင်း၊ အဓိပ္ပါယ်အရလည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်းအားဆက်ခံသူများ ဥပဒေအရ လွှဲအပ်ခံရသူများပါဝင်သည် ) ကတစ်ဘက်

နှင့်

ဗိုလ်ကြီး ဒေါ်စုစု(ငြိမ်း) ------ ကိုယ်စားပြုသော ရွှေဖြူဆောက်လုပ်ရေးကုမ္ပဏီလီမိတက် (နောင်တွင် 'အငှားချထားခြင်းခံရသူ' ဟု ခေါ်တွင်စေပြီး ယင်းစကားရပ်တွင် စာသားအရလည်းကောင်း၊ အဓိပ္ပါယ်အရလည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်းအားဆက်ခံခွင့်ရှိသူများ ဥပဒေအရလွှဲအပ်ခြင်းခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များပါဝင်သည်) က အခြားတစ်ဘက်တို့သည် အောက်ပါစည်းကမ်းချက်များနှင့်အညီ သဘောတူကတိစာချုပ်ကို ပြုလုပ်ချုပ်ဆိုကြပါသည်။

**ရည်ရွယ်ချက်။**

၁။ 'အငှားချထားသူ' နှင့် 'အငှားချထားခြင်းခံရသူ' အသီးသီးတို့သည် တည်ဆောက်ခြင်း၊ လုပ်ဆောင်ခြင်း၊ လွှဲပြောင်းပေးခြင်းစနစ် (B.O.T) ဖြင့် မြေငှားရမ်း၍ ခေတ်မီဆိုင်ခန်းများ၊ ရုံးခန်းများ တည်ဆောက်လုပ်ကိုင်ဆောင်ရွက်ခြင်းကို အောက်ပါအတိုင်းရည်ရွယ်၍ ဆောင်ရွက်ကြရန် သဘောတူကြပါသည်။

(က) မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေပါရည်ရွယ်ချက်များနှင့်အညီ ခေတ်မီမြို့တော်ကြီးအဖြစ်တည်ဆောက်လုပ်ကိုင်ရန်၊

(ခ) နိုင်ငံတော်၏ ဘဏ္ဍာငွေများ ရယူသုံးစွဲခြင်းမပြုဘဲ ခြိုးခြံချွေတာရန်၊

(ဂ) မြန်မာ့မီးရထား၏ ဝင်ငွေပိုမိုရရှိစေရန်၊

(ဃ) ခေတ်မီဆိုင်ခန်းများ၊ ရုံးခန်းများအတွက်သာအသုံးပြုမည်ဖြစ်၍ မြစ်ကြီးနားမြို့အင်္ဂါရပ်နှင့်အညီ ခေတ်မီနိုင်ငံတော်ပိုင် အဆောက်အဦးများဖြစ်ပေါ်လာစေရန်၊

(င) ခေတ်မီအေးချမ်းသာယာသော နိုင်ငံတော်သစ်ကြီးတည်ဆောက်ရာတွင် ပုဂ္ဂလိကပိုင်အခန်းကဏ္ဍမှ တစ်တပ်တစ်အား ပံ့ပိုးကူညီဆောင်ရွက်သွားရန်တို့ ဖြစ်ကြပါသည်။

**လုပ်ငန်း။**

၂။ အောက်ဖော်ပြပါအတိုင်း ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(က) 'အငှားချထားသူ' သည် မြစ်ကြီးနားမြို့၊ သခင်နက်ဖေလမ်းနှင့်ဈေးကြီးလမ်းပေါ်ရှိ မြန်မာ့မီးရထားပိုင်မြေပေါ်တွင် အကျယ်အဝန်းအားဖြင့် (၇၃၆၁ • ၂၄) စတုရန်းမီတာ (သို့) (၁ • ၈၁၉) ဧကရှိမြေကွက်အား 'အငှားချထားခြင်းခံရသူ' သို့ တည်ဆောက်ခြင်း၊ လုပ်ဆောင်ခြင်း၊ လွှဲပြောင်းပေးခြင်းစနစ်ဖြင့် အငှားချထားရန် နှစ်ဦးနှစ်ဘက်သဘောတူညီကြပါသည်။

(ခ) အငှားချထားမည့် အငှားချထားသူပိုင်မြေဧရိယာ (၇၃၆၁ • ၂၄)စတုရန်းမီတာရှိ အနီရောင်အမှတ်အသားပြမြေပုံကို နောက်ဆက်တွဲ (က) B နေရာအဖြစ်ပူးတွဲဖော်ပြထားပါသည်။

(ဂ) 'အငှားချထားခြင်းခံရသူ' သည်အထက်ဖော်ပြပါ အငှားချထားသည့် (၇၃၆၁ • ၂၄)စတုရန်းမီတာရှိ မြေကွက်ပေါ်တွင် ရာနှုန်းပြည့် (၁၀၀ %)ရင်းနှီးမြှုပ်နှံမှုအရ ကျပ်သိန်း(၁၁၀၀၀)(ကျပ်သိန်းတစ်သောင်းတစ်ထောင်)ခန့် မတည်ရင်းနှီး၍ သံကူအားဖြည့်ကွန်ကရစ်အမျိုးအစားဖြစ်သော ခေတ်မီရုံးခန်းများ၊ ဈေးဆိုင်ခန်းများပါရှိသည့် (၄ထပ်ခွဲ)၊ (၃ထပ်ခွဲ) နှင့် (၂)ထပ်အဆောက်အဦး(၆)လုံးကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် ကုန်သွယ်မှုမှုဝါဒကောင်စီတို့၏ ခွင့်ပြုချက်များနှင့်အညီ တည်ဆောက်ရန်ဖြစ်ပါသည်။

**ကိုယ်စားပြုခြင်းနှင့်အာမခံခြင်း။**

၃။ 'အငှားချထားသူ' နှင့် 'အငှားချထားခြင်းခံရသူ' တို့သည် မြန်မာနိုင်ငံ၏တည်ဆဲဥပဒေများအရ ဤသဘောတူစာချုပ်ပါလုပ်ငန်းများကို လုပ်ကိုင်ခွင့်ရှိသူများ ဤသဘောတူစာချုပ်ကို ချုပ်ဆိုရန်အခွင့်အာဏာရှိသူများနှင့်အငှားချထားခြင်းခံရသူသည် ဤစာချုပ်ပါလုပ်ငန်းများကို လုပ်ကိုင်ရန် စီးပွားရေးအရ ငွေရေးကြေးရေးခိုင်မာတောင့်တင်းသူဖြစ်ကြောင်း အသီးသီးအာမခံကြပါသည်။

### ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ။

၄။ ဤသဘောတူကတိစာချုပ်ကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဌာနများ၊ အဖွဲ့အစည်းများထံမှ လိုအပ်သည့်သဘောတူညီချက်များ၊ ခွင့်ပြုမိန့်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိပြီးမှုပေါ်တွင် တည်ရှိစေရမည်။

### ငှားရမ်းခြင်းကာလသတ်မှတ်ချက်

၅။ မြေငှားရမ်းသည့်ကာလသတ်မှတ်ချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံမှ အတည်ပြုချက်ရရှိပြီး ဤစာချုပ်အပိုဒ်၁၀(ဂ)တွင် သတ်မှတ်ထားရှိသော တည်ဆောက်ရေးကာလ(၁၂)လကာလပြည့်မြောက်သည့်နေ့မှအစပြု၍ ငှားရမ်းကာလကို (၁၅) နှစ်သတ်မှတ်ပြီး (၁၅)နှစ်ပြည့်မြောက်သည့်နေ့မှစ၍ အငှားချထားသူပိုင်အဆောက်အဦးအဖြစ်သတ်မှတ်ရမည်။ မြေငှားရမ်းခများပေးသွင်းရမည့်ရက်ကို တည်ဆောက်ရေးကာလ (၁၂)လပြည့်မြောက်သည့်နေ့မှစ၍ပေးသွင်းရမည်။ မြေငှားရမ်းခြင်းကာလကို နှစ်ဦးနှစ်ဘက်ညှိနှိုင်းသဘောတူညီချက်ဖြင့် နောက်ထပ် (၅)နှစ် (၁) ကြိမ် ဆက်လက်ငှားရမ်းခွင့်ရှိပါသည်။ သို့ရာတွင် ယင်းသို့ငှားရမ်းခွင့်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အတည်ပြုချက်ရရှိမှသာ အကျိုးသက်ရောက်စေရမည်။

### မြေအသုံးချမှုပရီမီယံကြေး

၆။ 'အငှားချထားခြင်းခံရသူ' သည် မြေအသုံးချမှုပရီမီယံကြေးအဖြစ် ငွေကျပ်(၄၉၁·၁၃)သိန်း (ကျပ်လေးရာကိုးဆယ့်တစ်သိန်းတစ်သောင်းသုံးထောင်တိတိ)ကို 'အငှားချထားသူ' သို့ အောက်ပါအတိုင်းပေးသွင်းရမည်။

(က) ဤသဘောတူစာချုပ် လက်မှတ်ရေးထိုးသည့်နေ့ရက်မှ ရက်ပေါင်း(၃၀)အတွင်း ပထမအရစ်အဖြစ်ကျပ်(၂၀၁·၁၃)သိန်း (ကျပ်နှစ်ရာတစ်သိန်းတစ်သောင်းသုံးထောင်တိတိ) ကို ပေးသွင်းရမည်။

(ခ) ပထမအရစ်ပေးသွင်းပြီးသည့်နေ့မှ (၆)လအတွင်း ဒုတိယအရစ်အဖြစ် ကျပ်(၁၄၅)သိန်း (ကျပ်တစ်ရာလေးဆယ့်ငါးသိန်းတိတိ) ကိုပေးသွင်းရမည်။

(ဂ) ဒုတိယအရစ်ပေးချေသည့်နေ့မှ (၆)လအတွင်း တတိယအရစ်အဖြစ် ကျပ်(၁၄၅)သိန်း (ကျပ်တစ်ရာလေးဆယ့်ငါးသိန်းတိတိ) ကို မြန်မာ့မီးရထားသို့ ပေးသွင်းရမည်။

### မြေငှားရမ်းခသတ်မှတ်ချက်

၇။ အောက်ပါအတိုင်းသတ်မှတ်သည်-

(က) 'အငှားချထားခြင်းခံရသူ' သည် အခင့်အတန့်မီ ရုံးခန်းများ၊ ဆိုင်ခန်းများပါရှိသော အားဖြည့်သံကူကွန်ကရစ်အဆောက်အဦးကို ကိုယ်တိုင်မတည်ရင်းနှီးငွေများဖြင့် ရာနှုန်းပြည့်ရင်းနှီးမြှုပ်နှံ၍ အကုန်အကျခံကာတည်ဆောက်ပေးရမည်။ 'အငှားချထားခြင်းခံရသူ' ၏ ရင်းနှီးစိုက်ထုတ်ငွေများကို 'အငှားချထားသူ' မှပြန်လည်ပေးဆပ်ခြင်း၊ လစဉ်ငှားရမ်းခငွေမှ ခုနှိမ်ခြင်းများပြုမည်မဟုတ်ပါ။

(ခ) 'အငှားချထားခြင်းခံရသူ' သည် အသုံးပြုနိုင်မည့်မြေအကျယ် (၇၃၆၁·၂၄) စတုရန်းမီတာမြေပေါ်တွင် (၄ထပ်ခွဲ) ၁လုံး၊ (၃ထပ်ခွဲ) ၃လုံးနှင့် (၂)ထပ်(၂)လုံး အဆောက်အဦးဆောက်လုပ်မည်ဖြစ်ရာ စုစုပေါင်းကြမ်းပြင်ဧရိယာ၏ ( ၈၀ % ) ဖြစ်သော အငှားချထားနိုင်မည့်ကြမ်းပြင်ဧရိယာ (Lettable area) (၁၁၃၁၇) စတုရန်းမီတာအတွက် တစ်နှစ် (၁)စတုရန်းမီတာလျှင် ကျပ် ၆၅၀ နှုန်းဖြင့် နှစ်စဉ်ငွေကျပ် (၇၃၅၆၀၅၀/-) နှင့် ယာဉ်ရပ်နားရန်မြေကွက်အလွတ် (၁)စတုရန်းမီတာ တစ်နှစ်လျှင် ကျပ် ၄၅၀ နှုန်းဖြင့် ၂၇၃၉·၁၀ စတုရန်းမီတာအတွက် နှစ်စဉ်ကျပ် ၁၂၃၂၅၉၅·၀၀ ပေးသွင်းရမည်ဖြစ်၍ စုစုပေါင်းငှားရမ်းခ တစ်နှစ်အတွက် ကျပ် ၈၅၇၉၆၂၂·၀၀ (ကျပ်ရှစ်သန်းငါးသိန်းခုနှစ်သောင်းကိုးထောင်ခြောက်ရာနှစ်ဆယ့်နှစ်တိတိ) ကို 'အငှားချထားသူ' သို့ပေးသွင်းရမည်။

(ဂ) 'အငှားချထားခြင်းခံရသူ' သည် 'အငှားချထားသူ' သို့ နှစ်စဉ်ငွေများပေးသွင်းရာတွင် ငှားရမ်းကာလစတင်သည့်နေ့မှစ၍ (၃)လလျှင် တစ်ကြိမ် သက်ဆိုင်ရာ ပထမလ၏ လဆန်း(၁၀)ရက်အတွင်းကြိုတင်ပေးသွင်းရမည်။ 'အငှားချထားသူ' သည် ငှားရမ်းခနှုန်းထားများကို (၅)နှစ်လျှင်တစ်ကြိမ် ပြန်လည်စိစစ်ခွင့်ရှိပြီး ပြင်ဆင်သတ်မှတ်သည့်နှုန်းထားသည် ပြီးခဲ့သော(၅)နှစ်ကာလအတွက် သတ်မှတ်သည့်နှစ်စဉ်ငှားခနှုန်းထားထက် ( ၁၅ % ) မပိုစေဘဲ တိုးမြှင့်ပြင်ဆင်ခွင့်ရှိစေရမည်။ ယင်းသို့ပြင်ဆင်တိုးမြှင့်သတ်မှတ်ခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာလျှင် အတည်ဖြစ်စေရမည်။

## ပျက်ကွက်ခြင်းတာဝန်

၈။ 'အငှားချထားခြင်းခံရသူ' သည် ငှားရမ်းခပေးသွင်းခြင်းကို ခိုင်လုံသောအကြောင်းပြချက်မရှိဘဲ (၃)လအထိပျက်ကွက်ပါက 'အငှားချထားသူ' အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရယူ၍ တစ်ဘက်သတ်ရပ်ဆိုင်း၍ ဤစာချုပ်ကို ပယ်ဖျက်ခွင့်ရှိသည်။

## 'အငှားချထားသူ' တာဝန်

၉။ 'အငှားချထားသူ' သည် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရန် တာဝန်ရှိပါသည်။

(က) မူလအဆောက်အဦး၏ပုံစံဒီဇိုင်းကိုလည်းကောင်း ပြင်ဆင်ထားသည့်ပုံစံဒီဇိုင်းကိုလည်းကောင်း၊ တည်ဆဲဥပဒေစည်းမျဉ်းစည်းကမ်းများနှင့် ညီညွတ်မှုရှိ/မရှိ စိစစ်၍ ညီညွတ်မှုရှိပါက သဘောတူခွင့်ပြုရမည်။

(ခ) 'အငှားချထားခြင်းခံရသူ' ကစာချုပ်ပါလုပ်ငန်းများကို အကောင်အထည်ဖေါ်နိုင်ရန်အတွက် တတ်နိုင်သရွေ့ ကူညီဖြည့်ဆည်းပေးရမည်။

(ဂ) 'အငှားချထားခြင်းခံရသူ' အတွက်လိုအပ်သောခွင့်ပြုမိန့်များ မှတ်ပုံတင်ခြင်းများ၊ လိုင်စင်ရယူခြင်းကိစ္စများကို သက်ဆိုင်ရာ ပြည်ထောင်စုမြန်မာနိုင်ငံတော် အဖွဲ့အစည်းများထံမှ ရယူရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(ဃ) ဆောက်လုပ်ပြီးသော အဆောက်အဦးကို 'အငှားချထားခြင်းခံရသူ' ကတည်ဆဲဥပဒေစည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ ထပ်ဆင့်ငှားရမ်းခြင်းကို ခွင့်ပြုရမည်။

(င) 'အငှားချထားခြင်းခံရသူ' အတွက် ရေ၊ လျှပ်စစ်ဓါတ်အား၊ တယ်လီဖုန်းရရှိရေးအတွက် ကူညီဆောင်ရွက်ပေးရမည်။

(စ) ငှားရမ်းသည့်မြေအတွက် ' မြေခွန် ' ကို ပေးဆောင်ရမည်။

(ဆ) 'အငှားချထားခြင်းခံရသူ' က မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ အရပ်ရပ်အခွန်သက်သာခွင့်နှင့်ကင်းလွတ်ခွင့်များ လျှောက်ထားရာတွင် ကူညီဆောင်ရွက်ပေးရမည်။

## 'အငှားချထားခြင်းခံရသူ' ၏ တာဝန်များ

၁၀။ 'အငှားချထားခြင်းခံရသူ' သည် အောက်ပါတို့ကို လိုက်နာဆောင်ရွက်ရန် တာဝန်ရှိသည်–

(က) ငှားရမ်းသည့်မြေပေါ်တွင် အငှားချထားသူအတည်ပြုပြီးသော ပုံစံဒီဇိုင်းအတိုင်း သတ်မှတ်ကာလအတွင်း ခေတ်မီ (၄ထပ်ခွဲ)၊ (၃ထပ်ခွဲ)၊ နှင့် (၂)ထပ် အားဖြည့်သံကူကွန်ကရစ်အဆောက်အဦးများကို မိမိ၏ရာနှုန်းပြည့်စိုက်ထုတ်ရင်းနှီးမှုဖြင့် တည်ဆောက်ရမည်။ အတည်ပြုပြီးသော ပုံစံဒီဇိုင်းမှ အဓိကပြောင်းလဲပြင်ဆင်တိုးချဲ့မှုများကို 'အငှားချထားသူ' ထံ စာဖြင့်ကြိုတင်သဘောတူညီချက်ရယူပြီးမှသာ ဆောင်ရွက်ခွင့်ရှိသည်။

(ခ) 'အငှားချထားခြင်းခံရသူ' သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ရရှိပြီးနောက် ဤစာချုပ်ကို လက်မှတ်ရေးထိုးသည့် နေ့မှအစပြု၍ တည်ဆောက်ခြင်းလုပ်ငန်းများကိုစတင်ဆောင်ရွက်ရပါမည်။

(ဂ) အဆောက်အဦးဆောက်လုပ်ခွင့်ကာလကို (၁)နှစ်ကာလအတွင်း အပြီးတည်ဆောက်သွားရမည်။

(ဃ) 'အငှားချထားခြင်းခံရသူ' သည် 'အငှားချထားသူ' (သို့မဟုတ်) ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းများကို ဤစာချုပ်အရ အကျုံးဝင်သောလုပ်ဆောင်ချက်များနှင့်ပတ်သက်သည့် သတင်းအချက်အလက်များကို အကြောင်းအားလျော်စွာ တောင်းခံလာတိုင်းပြုစုတင်ပြရမည်။ 'အငှားချထားခြင်းခံရသူ' သည် ဆောက်လုပ်သည့်အဆောက်အဦးရှိအခန်းများကို တည်ဆဲဥပဒေများ၊ ညွှန်ကြားချက်များနှင့်အညီ ပြန်လည်ရောင်းချရာတွင် အခန်းအသုံးပြုခွင့်သက်တမ်းနှင့်တကွ အတိအကျဖော်ပြထားရမည်။ အခန်းအသုံးပြုခွင့်ကို ရောင်းချခြင်းသက်တမ်းသည် အထက်အပိုဒ်(၅)ပါ ငှားရမ်းခြင်းသက်တမ်းနှင့်အညီသာဖြစ်ရပါမည်။ အခန်းများကို နိုင်ငံခြားသား (သို့မဟုတ်) နိုင်ငံခြားသားပိုင်ကုမ္ပဏီသို့ တစ်နှစ်ထက်ကျော်လွန်၍ ထပ်ဆင့်ငှားရမ်းမည်ဆိုပါက ၁၉၈၇ ခုနှစ် မရွှေ့မပြောင်းနိုင်သောပစ္စည်းများ လွှဲပြောင်းခြင်းကို ကန့်သတ်သည့်ဥပဒေပုဒ်မ(၁၄)အရ သက်ဆိုင်ရာဝန်ကြီးဌာနက ထုတ်ပေးထားသော 'ကင်းလွတ်ခွင့်ပြုသည့်အမိန့်' ကိုရရှိပြီးဖြစ်ရပါမည်။

(င) 'အငှားချထားခြင်းခံရသူ' သည် ငှားရမ်းထားသည့်မြေ၏ တစ်စိတ်တစ်ဒေသကိုလည်းကောင်း၊ မြေကွက်တစ်ခုလုံးကိုလည်းကောင်း၊ ထပ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း၊ အခြားနည်းဖြင့် လွှဲပြောင်းခြင်းတို့ကို 'အငှားချထားသူ' ၏ စာဖြင့်ခွင့်ပြုချက် မရရှိဘဲ လုံးဝမပြုလုပ်ရ။

(စ) မြေခွန်မှအပ သက်ဆိုင်ရာအခွန်အခများအားလုံးကို 'အငှားချထားခြင်းခံရသူ' က ပေးဆောင်ရမည်။

(ဆ) 'အငှားချထားခြင်းခံရသူ' သည်လုပ်ငန်းအတွက်လိုအပ်သော အာမခံထားရှိမှုများကို တည်ဆဲဥပဒေနှင့်အညီ ထားရှိရမည်။

(ဇ) မြေငှားရမ်းခများကို သတ်မှတ်ထားသောနှုန်းထားသတ်မှတ်ထားသောနည်းလမ်းများအတိုင်း အတိအကျပေးဆောင်ရမည်။

(ဈ) 'အငှားချထားခြင်းခံရသူ' သည် ရေ၊ လျှပ်စစ်၊ တယ်လီဖုန်းရရှိရေးတို့အတွက် မိမိစရိတ်ဖြင့် ဆောင်ရွက်ရမည်။

(ည) ငှားရမ်းထားသည့်မြေပေါ်တွင် တည်ဆဲဥပဒေများနှင့်ဆန့်ကျင်သည့်မည်သည့်လုပ်ငန်းကိုမျှ ဆောင်ရွက်ခြင်းမပြုရ။

**စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့**

၁၁။ ဤစာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူခွင့်ပြုချက်ရရှိပြီးနောက် အသိသက်သေများရှေ့တွင် နှစ်ဦးနှစ်ဘက် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှုရှိပြီး အတည်ဖြစ်စေရမည်။

**မြေနှင့် အဆောက်အဦးပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၁၂။ ဤသဘောတူကတိစာချုပ်ပါ ငှားရမ်းခြင်းကာလကုန်ဆုံးသောအခါဖြစ်စေ၊ စာပိုဒ်(ဂ)အရနှင့် စာပိုဒ်(၁၃)ပါ အကြောင်းတစ်ရပ်ရပ်ကြောင့် စာချုပ်ရုပ်စဲသည့်အခါဖြစ်စေ 'အငှားချထားခြင်းခံရသူ' သည် မြေနှင့်တကွ အဆောက်အဦးအပါအဝင် အဆောက်အဦးနှင့်ဆက်စပ်ပတ်သက်နေသော ပစ္စည်းများကို မွမ်းမံထားရှိပြီးကောင်းမွန်စွာအသုံးပြုနိုင်သည့်အခြေအနေအတိုင်း 'အငှားချထားသူ' သို့ အဖိုးစားနားတစ်စုံတစ်ရာတောင်းခံမှုမရှိဘဲ ငှားရမ်းခြင်းကာလကုန်ဆုံးသည့်နေ့မှ (၃)လအတွင်း ပြန်လည်လွှဲပြောင်းပေးရမည်။ ယင်းသို့ပြန်လည်လွှဲပြောင်းပေးရာတွင် အဆောက်အဦးမှာ အလွတ်သက်သက် ဖြစ်ရမည်။

**စာချုပ်ရုပ်စဲခြင်း**

၁၃။ အောက်ဖော်ပြပါ အခြေအနေအဖြစ်အပျက်များအနက် တစ်ရပ်ရပ်ပေါ်ပေါက်သည့်အခါတွင် စာချုပ်ရုပ်စဲသွားမည်–

(က) စာချုပ်ဝင် တစ်ဘက်ဘက်က စာချုပ်ပါစည်းကမ်းချက်များကို ဖောက်ဖျက်သည့်အခါ၊

(ခ) အငှားချထားခြင်းခံရသူ လူမွဲအဖြစ်ခံယူသွားသည့်အခါ၊

(ဂ) မလွန်ဆန်နိုင်သောဖြစ်ရပ်တစ်ခုသည်(၆)လထက်ကျော်လွန်၍ တစ်ဆက်တည်းဖြစ်ပွားနေသောအခါ၊

(ဃ) စာချုပ်သက်တမ်းကုန်ဆုံးသည့်အခါ၊

(င) စာချုပ်ကိုရုပ်စဲရန် နှစ်ဦးနှစ်ဘက်ကစာဖြင့် ရေးသား၍ သဘောတူသည့်အခါ၊

**မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

၁၄။ ဤသဘောတူကတိစာချုပ်အရဆောင်ရွက်ရမည့်တာဝန်ဝတ္တရားများကို မတားဆီးနိုင်သောဖြစ်ရပ်ကြောင့် တစ်စိတ်တစ်ဒေသဖြစ်စေ၊ လုံးဝဖြစ်စေ မထမ်းဆောင်နိုင်လျှင် ထိုသို့မဆောင်ရွက်နိုင်သူက အခြားတစ်ဘက်သို့ ယင်းဖြစ်ရပ်ဖြစ်ပွားသည့်နေ့မှ(၁၄)ရက်အတွင်း ထိုမတားဆီးနိုင်သောဖြစ်ရပ်ကို အသေးစိတ်စာဖြင့်ရေးသားကာ အကြောင်းကြားရမည်။ အခြားတစ်ဘက်က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်ပြီး တာဝန်ဝတ္တရားများထမ်းဆောင်ခြင်းကို မတားဆီးနိုင်သောဖြစ်ရပ်ပေါ်ပေါက်နေစဉ်ကာလအတွင်း ဆိုင်းငံ့ထားရမည်။ ထိုမတားဆီးနိုင်သောဖြစ်ရပ်ကြောင့် ကြန့်ကြာမှုတွင် မည်သူတွင်မှ တာဝန်မရှိစေရ၊ ထိုသို့မတားဆီးနိုင်သောဖြစ်ရပ်ဖြစ်ပွားနေသည့်ကာလများကို ငှားရမ်းခြင်းသက်တမ်းတွင် ထည့်သွင်းရေတွက်ခြင်းမပြုဘဲ ထုတ်ပယ်ခွင့်ရှိစေရမည်။

မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝဘေးအန္တရာယ်များ၊ လျှပ်စစ်ပြတ်တောက်ခြင်း၊ သပိတ်မှောက်ခြင်း၊ ပြည်သူ့ရန်သူ၏လုပ်ဆောင်ချက်များ၊ ပိတ်ဆို့မှုများ၊ သူပုန်ထခြင်း၊ အဓိကရုဏ်းဖြစ်ခြင်းများ၊ အရပ်ဖက်နှောက်ယှက်ဖျက်ဆီးခြင်းများ၊ ပေါက်ကွဲမှုများ၊ မီးလောင်ခြင်းများ၊ မုန်တိုင်းတိုက်ခတ်ခြင်းများနှင့် အခြားအလားတူ အကြောင်းများဖြစ်ပြီးထိုက်သင့်သောသတိဝိရိယဖြင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သောဖြစ်ရပ်များကို ဆိုလိုပါသည်။

**အနုညာတစီရင်ဆုံးဖြတ်ခြင်း**

၁၅။ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဘက်ပြေလည်စွာညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်စီကတစ်ဦးစီခန့်ထားသောခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးကရွေးချယ်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကိုခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင် နှစ်ဖက်စာချုပ်ဝင်အပေါ်၌လည်း အတည်ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ခုနှစ် မြန်မာနိုင်ငံအနုညာတစီရင်ဆုံးဖြတ်ခြင်းအက်ဥပဒေ(မြန်မာနိုင်ငံအက်ဥပဒေ အမှတ်၄/၁၉၄၄) နှင့် နောက်ပိုင်းထုတ်ပြန်သောတည်ဆဲပြင်ဆင်ချက်များနှင့်အညီဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော် ရန်ကုန်မြို့ဖြစ်စေရမည်။ အမှုအတွက်ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံရမည်။

**ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၁၆။ 'အငှားချထားခြင်းခံရသူ' သည် လုပ်ငန်းဆောင်ရွက်နေသည့်နေရာနှင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထု၊ ရေထု ညစ်ညမ်းမှုမရှိစေရန်နှင့် မိမိလုပ်ငန်းမှ ထွက်ရှိသည့်အညစ်အကြေး အမှိုက်နှင့်ရေဆိုးများသန့်စင်ရန်စီမံခြင်း၊ ရေလွှတ်စနစ်ရှိခြင်းတို့ကို ပြည်ထောင်စုမြန်မာနိုင်ငံတော်၏တည်ဆဲဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်အတွက် အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

**သဘာဝအရင်းအမြစ်များဆိုင်ရာသတ်မှတ်ချက်**

၁၇။ မြေငှားရမ်းလုပ်ဆောင်နေစဉ်ကာလအတွင်း ငှားရမ်းထားသည့်မြေမှာ မမျှော်လင့်ဘဲ သဘာဝအရင်းအမြစ်များ၊ ဓါတ်သတ္တုအရင်းအမြစ်များ၊ ကျောက်မျက်ရတနာရှေးဟောင်းသမိုင်းဝင်ပစ္စည်းများ စသည်များတစ်စုံတစ်ရာတူးဖော်တွေ့ရှိပါက 'အငှားချထားခြင်းခံရသူ' သည်အငှားချထားသူထံသို့ စာဖြင့် အကြောင်းကြားရမည်။ တွေ့ရှိသောသဘာဝအရင်းအမြစ်နှင့် ဓါတ်သတ္တုအပါအဝင် ကျောက်မျက်ရတနာနှင့် ရှေးဟောင်းသမိုင်းဝင်ပစ္စည်းများကို 'အငှားချထားသူ' ၏အစီအစဉ်ဖြင့် သက်ဆိုင်ရာနိုင်ငံတော်အစိုးရအဖွဲ့အစည်းများသို့ တရားဝင်လက်ရောက်လွှဲပြောင်းဆောင်ရွက်ရမည်။ 'အငှားချထားသူ' အနေဖြင့် ထိုသို့ပစ္စည်းများတွေ့ရှိမှုနှင့် ပတ်သက်၍ ငှားရမ်းထားသည့်ကာလအပါအဝင် မည်သည့်အချိန်အခါတွင်မဆို လွတ်လပ်စွာစီမံဆောင်ရွက်ခွင့်ရှိရမည်။

**စာချုပ်ကိုပြင်ဆင်ဖြည့်စွက်ခြင်း**

၁၈။ ဤသဘောတူကတိစာချုပ်ကို စာချုပ်ဝင်နှစ်ဖက်တို့သည် စာဖြင့်နှစ်ဦးနှစ်ဘက်သဘောတူညီမှုမရှိဘဲ ပြင်ဆင်ဖြည့်စွက်ခြင်းကို လုံးဝမပြုလုပ်ရပါ။ ဤသဘောတူကတိစာချုပ်တွင် မူလဖော်ပြပါရှိခြင်းမရှိသောအချက်အလက်များ (သို့မဟုတ်) အခြေအနေများကို ဤစာချုပ်ပါမူလရည်ရွယ်ချက်များကို ထိခိုက်ခြင်းမရှိပါက နှစ်ဘက်သဘောတူညီချက်ဖြင့် ထပ်မံပြင်ဆင်ဖြည့်စွက်နိုင်ခွင့်ရှိကြမည်ဖြစ်ပြီး ယင်းသို့ပြင်ဆင်ဖြည့်စွက်မှုသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မတီ၏ အတည်ပြုချက်ရရှိမှသာ အကျိုးသက်ရောက်စေရမည်။

**စာချုပ်၏ အစိတ်အပိုင်းများ**

၁၉။ ဤမြေငှားရမ်းခြင်းသဘောတူစာချုပ်နှင့်အတူ ပူးတွဲပါရှိသော နောက်ဆက်တွဲများသည် ဤစာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

**ငှားရမ်းသည့်မြေသို့ ပြန်လည်ဝင်ရောက်ပိုင်ခွင့်**

၂၀။ 'အငှားချထားခြင်းခံရသူ' သည် ဤစာချုပ်ပါစည်းကမ်းချက်များကိုဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် 'အငှားချထားသူ' က ယင်းကဲ့သို့ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာရန် 'အငှားချထားခြင်းခံရသူ' သို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါကာလအတွင်း လိုက်နာမှုမရှိပါက 'အငှားချထားသူ' သည် အငှားချထားသည့်မြေသို့ ပြန်လည်ဝင်ရောက်၍ လက်ရောက်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် 'အငှားချထားသူ' က 'အငှားချထားခြင်းခံရသူ' ထံမှ ရရန်ရှိသော ငှားရမ်းခ (သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုများအတွက် လျော်ကြေးတောင်းဆိုခြင်းကို ထိခိုက်ခြင်းမရှိစေရ။

**လျှို့ဝှက်ချက်များထိန်းသိမ်းခြင်း**

၂၁။ ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးကြသည့် စာချုပ်ဝင်ပုဂ္ဂိုလ်များသည် ဤစာချုပ်ပါအချက်အလက်များ၊ စာချုပ်ပါတာဝန်များ၊ လုပ်ငန်းအစီအစဉ်များနှင့် အခြားသတင်းအချက်အလက်ဆိုင်ရာများကို လုပ်ငန်းအတွက်ခွင့်ပြုထားသောကိစ္စများမှအပ မြန်မာနိုင်ငံလျှို့ဝှက်အက်ဥပဒေနှင့်အညီ လျှို့ဝှက်အဆင့်အဖြစ် တာဝန်ယူထိန်းသိမ်းထားရှိရမည်ဖြစ်ပါသည်။

**အကြောင်းကြားဆက်သွယ်ခြင်း**

၂၂။ ဤသဘောတူကတိစာချုပ်ကိစ္စများအတွက် အောက်ပါလိပ်စာများအတိုင်း အပြန်အလှန်စာဖြင့် ဆက်သွယ်ဆောင်ရွက်ရမည်ဖြစ်သည်-

(က) မြန်မာ့မီးရထား

| | | |
|---|---|---|
| အမည် | - | ဦးမင်းဆွေ |
| ရာထူး | - | ဦးဆောင်ညွှန်ကြားရေးမှူး |
| လိပ်စာ | - | အမှတ်(၃၅၇-၃၆၁)၊ ကုန်သည်လမ်း၊ မြန်မာ့မီးရထားရုံးချုပ် |
| ဖုန်းနံပါတ် | - | |

(ခ) ရွှေဖြူဆောက်လုပ်ရေးကုမ္ပဏီလီမိတက်

အမည် - ဗိုလ်ကြီးဒေါ်စုစု(ငြိမ်း)

အလုပ်အကိုင် - ဒါရိုက်တာ၊ ရွှေဖြူဆောက်လုပ်ရေးကုမ္ပဏီလီမိတက်

လိပ်စာ - အမှတ်(၁၁၀/အေ)၊ ၂၉လမ်းနှင့် ၇၃လမ်းဒေါင့်၊ မန္တလေးမြို့။

ဖုန်းနံပါတ် - ၀၂-၃၁၇၃၂၊ ၃၂၉၆၆

အထက်ဖော်ပြပါဆက်သွယ်ရန်လိပ်စာအခြေအနေ အပြောင်းအလဲတစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဖက် အပြန်အလှန်စာဖြင့် ဆက်သွယ် အကြောင်းကြားရန် ဖြစ်ပါသည်။

**အထွေထွေ**

၂၃။ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) ဤသဘောတူစာချုပ်အား နှစ်ဦးနှစ်ဘက် စာဖြင့်သဘောတူညီချက်မရဘဲ ပယ်ဖျက်ခြင်း ပြင်ဆင်ခြင်း ပြောင်းလဲခြင်းမပြုလုပ်ရ။

(ခ) ဤသဘောတူစာချုပ်သည် ဤသဘောတူစာချုပ်အကျိုးသက်ရောက်သည့်နေ့မှစ၍ စာဖြင့်ဖြစ်စေ၊ နှုတ်ဖြင့်ဖြစ်စေ၊ နှစ်ဦးနှစ်ဘက် သဘောတူညီထားသည့် ယခင်ကသဘောတူညီချက်အား လွှမ်းမိုးပယ်ဖျက်ပြီး ဖြစ်စေရမည်။

(ဂ) ဤသဘောတူစာချုပ်ပါစည်ကမ်းချက်များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူခွင့်ပြုမိန့်ရရှိပြီးမှသာ အတည် ဖြစ်စေရမည်။

ဤ သဘောတူကတိစာချုပ်ကို စာချုပ်ဝင်နှစ်ဘက်ပုဂ္ဂိုလ်များ ဖတ်ရှုနားလည်သဘောပေါက်ကြပြီးဖြစ်၍ အောက်ပါအသိသက်သေများ ရှေ့မှောက်တွင် ခုနှစ်၊ လ၊ ရက်နေ့တွင် ရန်ကုန်မြို့၌ လက်မှတ်ရေးထိုးချုပ်ဆိုမှုပြုကြပါသည်။

'အငှားချထားသူ'(ကိုယ်စား)

ဦးမင်းဆွေ

ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာ့မီးရထား

'အငှားချထားခြင်းခံရသူ'(ကိုယ်စား)

ဗိုလ်ကြီးဒေါ်စုစု(ငြိမ်း)

ဒါရိုက်တာ

ရွှေဖြူဆောက်လုပ်ရေးကုမ္ပဏီလီမိတက်

<u>အသိသက်သေများ</u>

(၁)

အမည်

ရာထူး

နေရပ်

(၂)

အမည်

ရာထူး

နေရပ်



| | |
|---|---|
| APPROVED BY | |
| COMPANY | **SHWE PHYU** CONSTRUCTION CO.LTD |
| PROJECT | PROPOSED HOTEL & SHOPHOUSES |
| BLOCK NO. | |
| LOT NO. | |
| SUBJECT | PERSPECTIVE VIEW |
| SCALE | FIT |
| DATE | 24-10-03 |
| SHEET NO. | 2 |
| L.S. | |

(ကြည်သာမြင့်)
B.E. (Civil), Dip. in Eng. (U.F.L)
အကြီးတန်းလိုင်စင်ရအင်ဂျင်နီယာအမှတ်( )





LFDB Bank Ltd.( Head Office )

-

Ph : -

Fax : -

NAME : CAPT. DAW SU SU(RTD) S-257
ADDRESS : SHWE BYU CONST:CO LTD.525-C,WE [illegible] RACE COURT
TOWNSHIP : BHN
PHONE : -

ACCOUNT NO. : 0011110016616
NRC : 12/YAKANA(N)021056

## Statement Of Transaction For The Date Between 17/08/2004 And 17/08/2004

**Date : 17 August , 2004**

| Date_Time | Description | Withdrawal Amount | Deposit Amount | Balance |
|---|---|---|---|---|
| 17 / 08 / 2004 | Opening Balance | | | 0.00 |
| 17 / 08 / 2004 | By Cash | | 2,000.00 | 2,000.00 |
| 17 / 08 / 2004 | Tr. from M-253 A:396579 | | 100,040,000.00 | 100,042,000.00 |
| 17 / 08 / 2004 | Closing Balance | | | 100,042,000.00 |

**No. of Withdrawals : 0**
**No. of Deposits : 2**

**Thank You For Banking With LFDB Bank Ltd.( Head Office )**

**Please report any descrepencies found on your statement immediately.**
**N.B - Statement will not be sent unless there is a change of transaction.**

**For LFDB Bank Ltd.( Head Office )**

Asst: / DY Manager

ASSISTANT GENERAL MANAGER
MYANMA LIVESTOCK AND FISHERIES
DEVELOPMENT BANK LIMITED

# C B BANK
## MANDALAY

*STATEMENT OF ACCOUNT*

FOR THE MONTH OF
March, 2004.

DAW SAM PAYI
NO-110,SHWEPHYU CO. LTD;BET;73 X 29
CHANAYETHARZAN
MANDALAY
31732



**ACCOUNT NO.** 0592001230

**OLD ACCOUNT NO.**

| SR. | DATE | CHQUE NO. | PARTICULARS | WITHDRAW | DEPOSIT | BALANCE |
|---|---|---|---|---|---|---|
| | | | | | | 0.00 |
| 1 | 4-03-04 | | By Cash | - | 60,000,000.00 | 60,000,000.00 |
| | | | **Grand Total** | | **60,000,000.00** | |

Reported Date **4 - Mar - 2004**

Asst: General Manager
Co-operative Bank Ltd.
Mandalay.
(Authorized Signature)

For statement information and customer enquires, Please call,
02/28274 ,33387 ,39456
"FOR YOUR RELIANCE C B BANK"

ရတနာပုံဘဏ်လီမိတက်
မန္တလေးမြို့




# ထောက်ခံချက်

မန္တလေးမြို့ ချမ်းအေးသာစံမြို့နယ် [illegible] ရပ်ကွက် (၇၂ ပ) အမှတ် (၁၁၀) ၇၃ × ၂၉လမ်း ထောင့်နေ ဒေါ်ဆန်းဖရီ ( ရွှေဖြူဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) သည် မန္တလေးမြို့ ရတနာပုံဘဏ်လီမိတက်တွင် ငွေစာရင်းရှင် အမှတ် (အ၁၇-၂)ဖြင့် စာရင်းဖွင့်လှစ်ထားရာ (၁၂-၅-၂၀၀၄) ရက်နေ့ ရှိ - လက်ကျန်ငွေမှာ ကျပ်-၅၁၄၁၈၉၈၇/၅၀ပြား ( ကျပ်ငါး ရာတစ်ဆယ့်လေး သိန်းတစ် - သောင်း ရှစ် ထောင်ကိုး ရာရှစ်ဆယ့်ခုနစ်နှင့်ပြား ငါး ဆယ်တိတိ ) ဖြစ်ကြောင်း - ထောက်ခံအပ်ပါသည်။

( ကျော်သူ )
လက်ထောက်မန်နေဂျာ

ရက်စွဲ၊ ၂၀၀၄ ခုနှစ် မေလ (၁၂) ရက်နေ့

**လက်ထောက်မန်နေဂျာ**
**ရတနာပုံဘဏ်လီမိတက်**
**မန္တလေးမြို့**



DAW SANFARI (E-2)
ရွှေဖြူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်
73×29 လမ်းထောင့် ၊ မန္တလေး

A/C NO. 11 00408

YADANABON BANK LTD.(MANDALAY)
No.58-A, BETWEEN 84x85, 26B ROAD,
MANDALAY.

FOR 4/2004

| Date | Cheque No. | Particulars | Debit KYAT | Debit PYA | Credit KYAT | Credit PYA | Balance KYAT | Balance PYA |
|---|---|---|---|---|---|---|---|---|
| 3/2004 | | BY BALANCE | | | | | 20,000,987 | 50 |
| 7/ 4/2004 | | BY CASH | | 00 | 20,000,000 | 00 | 40,000,987 | 50 |
| 28/ 4/2004 | | BY CASH | | 00 | 11,41[illegible],000 | 00 | 51,418,987 | 50 |

Unless the Bank is immediately notified of any discrepancy found in the Statement of Account it will be taken that Account has been found to be correct.

လက်ထောက်မန်နေဂျာ
ရတနာပုံဘဏ်လီမိတက်
မန္တလေးမြို့

YOMA BANK
your bank

Ref: No. Bcl (                    )

Date: 18-August-2004

## To Whom It May Concern

Upon request of the Account Holder mentioned hereunder, we certify that the said account has a balance of the stated sum at the close of business on the said date.

This certification is given without responsibility to our bank or its officers.

| Name & Account Number | Date | Balance in Account |
|---|---|---|
| *Daw Sam Pa Yi*<br>*Shwe Phyu Construction Co; Ltd*<br>A/C No. 041 31 006266 2 | *18-Aug-2004* | *302,340,600.00* |
| **Words:** *Kyat Three Hundred Two Million, Three Hundred Fourty Thousand and Six Hundred Only* | | |

*Yours faithfully,*

18.5.04

Sr.Manager
Yoma Bank Ltd.
Yadanarbonzay Branch

ရိုးမဘဏ်
သင့်ဘဏ်

# SHWE BYU CONSTRUCTION CO., LTD

No. 110 (A), Coner of 73rd & 29th Street, Mandalay, Myanmar. Ph 02-31732, 02-32966

## ဒါရိုက်တာအဖွဲ့အစည်းအဝေးမှတ်တမ်း

ကျင်းပသည့်နေ့ရက်။ ။ ၂၅ - ၅ - ၂၀၀၄
ကျင်းပသည့်အချိန်။ ။ နံနက် ၁၀း၀၀ နာရီ
ကျင်းပသည့်နေရာ။ ။ ကုမ္ပဏီရုံးခန်း

| တက်ရောက်သူများ။ | ရာထူး | လက်မှတ် |
|---|---|---|
| ၁။ ဒေါ်ဆမ်းပရီ | အုပ်ချုပ်မှုဒါရိုက်တာ | (signature) |
| ၂။ ဦးထွန်းရီ | ဒါရိုက်တာ | (signature) |
| ၃။ ဦးထွန်းဦး | ဒါရိုက်တာ | (signature) |
| ၄။ ဒေါ်ဆိုင်းမိုင် | ဒါရိုက်တာ | (signature) |
| ၅။ ဗိုလ်ကြီး ဒေါ်စုစု (ငြိမ်း) | ဒါရိုက်တာ | (signature) |

**ဆုံးဖြတ်ချက်။**

၁။ မြန်မာ့မီးရထားနှင့် အကျိုးတူပူးပေါင်း၍ မြစ်ကြီးနားမြို့ရှိ မြန်မာ့မီးရထားပိုင် မြေပေါ်တွင် B.O.T စနစ် ဖြင့် ရုံးခန်း၊ ဆိုင်ခန်းများပါဝင်သော အဆောက်အဦးဆောက်လုပ်ငှားရမ်းခွင့်တင်ပြလျှောက်ထားရာတွင် ကုမ္ပဏီကိုယ်စား ကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးဖြစ်သူ ဗိုလ်ကြီး ဒေါ်စုစု (ငြိမ်း) အား ကမကထ ပြုသူအဖြစ်တာဝန်ပေးအပ်ထားခြင်းကို အခြားဒါရိုက်တာအဖွဲ့ဝင်များမှသိရှိ၍ ကန့်ကွက်ရန်မရှိကြောင်းအတည်ပြုဆုံးဖြတ်ကြပါသည်။

မှတ်တမ်းတင်သူ

(signature)

ဗိုလ်ကြီးဒေါ်စုစု (ငြိမ်း)
ဒါရိုက်တာ
**Shwe Byu Construction Co., Ltd.**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

အကြောင်းအရာ။ ။ လျှပ်စစ်ဓါတ်အားရယူသုံးစွဲမှုအစီအစဉ် တင်ပြခြင်း နှင့် မတည်ရင်းနှီးငွေတိုးမြှင့်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုတင်ပြခြင်း။

ကျွန်မတို့ Shwe Byu Construction Co., Ltd. သည် မြန်မာ့မီးရထားပိုင်မြေဖြစ်သည့် မြစ်ကြီးနားမြို့ သခင်နက်ဖေလမ်း နှင့် ဈေးကြီးလမ်း ရှိ မြေပေါ်တွင် B.O.T စနစ် ဖြင့် ရုံးခန်း၊ ဆိုင်ခန်းများ ဆောက်လုပ်ငှားရမ်းခွင့်ပြုရန် အဆိုပြုတင်ပြရာတွင် မြန်မာ့လျှပ်စစ်ဌာနမှ ထုတ်လုပ်သည့်လျှပ်စစ်ဓါတ်အား ကို အသုံးမပြုပဲ မိမိတို့၏ ကုမ္ပဏီပိုင် မီးစက်ဖြင့်ထုတ်လုပ်သော လျှပ်စစ်ဓါတ်အားကိုသာ အသုံးပြုသွားမည်ဖြစ်ကြောင်းတင်ပြအပ်ပါသည်။

ထို့အပြင် ကုမ္ပဏီ၏ မတည်ငွေရင်းသည် ကျပ်သန်း (၅၀) သာရှိသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ရရှိပါက ကုမ္ပဏီ၏မတည်ငွေရင်းအား ကျပ်သန်း (၁၁၀၀) အထက်သို့တိုးမြှင့်သွားမည် ဖြစ်ကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

ရို သေ လေး စား စွာ ဖြင့်

ဗိုလ် ကြီး ဒေါ် စု စု ( ငြိမ်း )
ဒါ ရိုက် တာ
**Shwe Byu Construction Co., Ltd.**

# မီးဘေးကြိုတင်ကာကွယ်မှုအစီအစဉ်တင်ပြခြင်း။

ကျွန်မတို့၏ **Shwe Byu Construction Company Limited.** အနေဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် မြန်မာ့မီးရထားပိုင် မြစ်ကြီးနားမြို့ သခင်နက်ဖေလမ်းနှင့်ဈေးလမ်းရှိ မြန်မာ့မီးရထားပိုင်မြေပေါ်တွင် ( **Build, Operate and Transfer System( B.O.T ))** တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်းပေးခြင်းစနစ်၊ အရ ရုံးခန်းများ ဆိုင်ခန်းများပါဝင်သော အဆောက်အဦးများ ကိုဆောက်လုပ်၍ လုပ်ငန်းလုပ်ကိုင်ခွင့်ရရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

ကျွန်မတို့၏ **Shwe Byu Construction Company Limited.** သည် လိုအပ်သော မီးအန္တရာယ်ကြိုတင်ကာကွယ်မှုများကို လိုအပ်သလို ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ဗိုလ် ကြီး ဒေါ် စု စု ( ငြိမ်း )
( ဒါရိုက်တာ )
**Shwe Byu Construction Company Limited.**

# SHWE BYU TRADING COMPANY LIMITED.

NO.110(A), SEIKTAYAMAHI QTER (CORNER OF 73RD & 29TH STREET), CHANAYETHARZAN TSP, MANDALAY.




သို့/-

ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၂၀၀၄ ခုနှစ်၊ ဧပြီလ ( ၂ )ရက်။

အကြောင်းအရာ။ ။ <u>မြန်မာကုမ္ပဏီများ လုပ်ငန်းရည်ရွယ်ချက် ရွေးချယ်တင်ပြခြင်း။</u>

ရည်ညွှန်းချက် ။ ။ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၏ (၂၉-၂-၂၀၀၄)ရက်စွဲပါ စာအမှတ်-ရကာ-၈(ဂ)၀၀၁/၂၀၀၄(၉၀၂)။

အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ ရည်ညွှန်းချက်စာပါ လုပ်ငန်းအမျိုးအစားမှ ရွှေဖြူ ထရိတ်ဒင်း ကုမ္ပဏီ လီမိတက် ( SHWE BYU TRADING CO., LTD. )အမည်အား ရွှေဖြူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( SHWE BYU CONSTRUCTION CO., LTD. ) အမည်သို့ ပြင်ဆင်ကာ ဆောက်လုပ်ရေးလုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်မည် ဖြစ်ပါသည်။

လေးစားစွာဖြင့်



Daw Sam Pri
Managing Director
Shwe Byu Trading Co., Ltd

# SHWE BYU TRADING COMPANY LIMITED.

NO.110(A), SEIKTAYAMAHI QTER (CORNER OF 73RD & 29TH STREET), CHANAYETHARZAN TSP, MANDALAY.

---

သို့/-

မှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင်ရုံး
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၂၀၀၄ ခုနှစ်၊ ဧပြီလ ( ၂ )ရက်။

အကြောင်းအရာ။ ။ <u>လုပ်ငန်းရည်ရွယ်ချက် ရွေးချယ်တင်ပြခြင်း။</u>

ရွှေဖြူ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ( SHWE BYU CONSTRUCTION CO., LTD. )အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင် ဖော်ပြပါရှိသော လုပ်ငန်းများအနက် အောက်ဖော်ပြပါ လုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၁) ဆောက်လုပ်ရေးလုပ်ငန်း။

လေးစားစွာဖြင့်

Daw Sam Pri
Managing Director
Shwe Byu Trading Co., Ltd

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

ကုန်သွယ်ရေးဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ............ ၄၅၈ ............ /၁၉၉၂ - ၁၉၉၃

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ရွှေဖြူ ထရိတ်ဒင်း ............

ကုမ္ပဏီ လီမိတက် ............ အား ပေးရန်တာဝန်ကန့်သတ်ထားသော လီမိတက်ကုမ္ပဏီ အဖြစ်

၁၉၉၂ ခုနှစ် ... အောက်တိုဘာ ... လ ... ၂၀ ... ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။



( ခင်မောင်အေး )
ကုမ္ပဏီများမှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင်ရုံး

* * *

## THE GOVERNMENT OF THE UNION OF MYANMAR
## MINISTRY OF TRADE
# CERTIFICATE OF INCORPORATION

**No.** ........ 458 ........ **of 1992 -1993**

I hereby certify that ........ SHWE BYU TRADING COMPANY ........

........................................ *is this day incorporated under the Myanmar Companies Act, and that the Company is Limited.*

*Given under my hand at Yangon this* ........ TWENTIETH ........ *day of* ........ OCTOBER ........ *one thousand nine hundred and* ........ NINETY TWO ........

( KHIN MAUNG AYE )
Registrar of Joint Stock Companies
Companies Registration Office





# FORM VI

## RETURN OF ALLOTMENTS
## THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made).

Return of allotment from the made on 7th day of November, 200 3.

on the of 200 of the *

Made pursuant to Section 104(1) . SHWE BYU TRADING COMPANY LIMITED.

Number of the shares allotted payable in cash ..... 100 Shares.

" " " " .....

Nominal amount of the shares so allotted ..... Kyats.100,000/-

" " " " .....

Amount paid or due and payable on each such share ..... Kyats.1,000/-

" " " " ..... Fully Paid Up.

Number of ordinary shares allotted for a consideration other than cash

Nominal amount of the ordinary shares so allotted ..... NIL

Amount to be treated as paid on each such share ..... NIL

The consideration for which such share have been allotted is as follows:-

---

**NOTE:** In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.
Distinguish between preference, ordinary, or other description of shares.




# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

**(Myanmar Companies Act, See Section 87)**




Name of Company : SHWE BYU TRADING COMPANY LIMITED.

Presented by : Daw Sam Pri. Managing Director.

| The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| Daw Sam Pri. | Myanmar 9/MaYaMa(N)030131. | No.110, Seiktayamahi Quarter, (Corner of 73rd & 29th Street), Chan Aye Thar Zan Township, Mandalay. | Merchant | Managing Director. |
| U Tun Yee. | Myanmar 13/TaKaNa(N)122267 | Da.10, Maha Myaing 1, Maha Aung Myay Township, Mandalay. | Merchant | Director. |
| U Tun Oo. | Myanmar 9/MaHaMa(N)000667 | Da.10, Maha Myaing 1, Maha Aung Myay Township, Mandalay. | Merchant | Director. |
| U Pan Yin Shan. | Myanmar 1/MaKaNa(Pyu)000101. | No.68, Waizayantar Road, South Okkalapa Township, Yangon. | Merchant | Resigned from Director, w.e.f. 7-11-2003. |
| Daw Wan Kin Sein. | Myanmar 1/MaKaNa(Pyu)000102. | No.68, Waizayantar Street, South Okkalapa Township, Yangon. | Merchant | Resigned from Director, w.e.f. 7-11-2003. |
| Daw Saing Mai. | Myanmar 9/MaHaMa(N)000668. | No.110, Seiktayamahi Quarter, (Corner of 73rd & 29th Street), Chan Aye Thar Zan Township, Mandalay. | Merchant | Director. |
| Capt. Daw Su Su. (Retd). | Myanmar 12/YaKaNa(N)021056 | No.525, (C-1), West Race Course Road, Bahan Township, Yangon. | Merchant | Appointed as Director, w.e.f 7-11-2003. |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ........................................ and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Dated this 7-11-2003.

Signature ..............................

Designation ..............................